# " မအယ်နီ နှင့် ကျွန်တော် "

~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~

မြင့်ဖြိုးသစ်

" ၂၀ ရာစုမှာ ဖြစ်ပေါ်ခဲ့တဲ့ ချစ်ခြင်းတစ်ပုဒ်ကို
မှီငြမ်းရေးဖွဲ့ထားပါသည် "
~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~~

# ( အခန်း - ၁ )

" အမေကလည်းဗျာ ဒီနေ့ အလုပ်သွားရမှာ နှိုးပါ ဆိုတဲ့ဟာ ရှားရှားပါးပါးရတဲ့အလုပ်လေးကို "

တွေ့ရာ ရှပ်အင်္ကျီကောက်စွပ်ပြီး မကျေမနပ်ပြောရင်း ရုံးကို သုတ်ခြေတင်ရခြင်းဖြင့် နေ့တစ်နေ့ကိုစတင်ရလေသည်။

" ရှင် အလုပ်ကို လေးစားမှုမရှိဘူးလား ဟမ်၊ အလုပ်ကို ပေါ့ပေါ့သေးသေးထင်နေလား၊ etc... "

တော်တော်စွာတာပဲ ဒီ manager ။ မျက်လုံးတွေက ဒေါသ စိတ်ကြောင့် ရူးရူးရဲရဲ အရည်လဲ့နေ၊ ကိုယ့်ထက်တော့အရပ်ပုတယ် ။ ပုပုသေးသေး ကောင်မလေးပဲ ။ ဆူနေပေမယ့်လည်း တမျိုးလေး ပါလား ။

" ဟ နေပါဦး ငါအဆူခံနေရတာလေ ဘာလို့ ရင်ဘတ်ကတအားခုန်နေ "

**Assistant manager** ရဲ့ ဆူပူခြင်းက ဘေးလူ ကြားရင် ရှက်စရာပေမယ့် ကျွန်တော့် ရင်ဘတ်ထဲက နှလုံးသားဟာ အဲ့ဒီနေ့က စပြီး လှုပ်ရှားသက်ဝင်လာခဲ့သည်။

**Administration** အဖွဲ့ရဲ့ ရုံးတတ် ၊ ရုံးဆင်းလက်မှတ်ထိုးရတဲ့ ကောင်တာက အေးချမ်းရာနေရာဖြစ်မယ်လို့ ဘယ်သူက ထင်ထား မှာလဲ ...။

---

" မအယ်နီအတွက် ချောကလက် "

စာရင်းကို ငုံ့ရေးနေတဲ့ မျက်လုံးစူးစူးရဲလေးက ကိုယ့်ကို မော်ကြည့်ပြီး

" မယူလာနဲ့ အယ်နီက ချောကလက် မကြိုက်ဘူး ပြန်ယူသွား "

ကောင်တာက ပြန်လှည့်လာတဲ့ ခြေလှမ်းမှာ အချစ်ဆိုတဲ့အရာ ကပ်ပါလာမှန်း အိမ်ရောက်မှသိခဲ့တယ်..။

" မအယ်နီ ဘာကြိုက်တတ်လဲ "

" မအယ်နီ မိသားစုဘယ်နှစ်ယောက်ရှိလဲ "

" မအယ်နီ အသက်ဘယ်လောက်လဲ "

ညှော်ကြိုကောင်တာက ကျွန်တော်ရဲ့မေးခွန်းတွေနှင့် နေ့တိုင်း ဖုံးလွှမ်းခဲ့တယ် ..။ ချစ်ရသူ မရိပ်မိအောင်လည်း ကိုယ့်မှာ ခြေလှမ်းမသွက်ရဲ ..။

" အဟမ်း "

အရှက်ပြေ ချောင်းဟန့်လိုက်ပေမယ့် အေးစက်နေတဲ့လက်က မနွေးသွား။ တယ်လီဖုန်းခွက်ကိုကိုင်ပြီး နံပါတ်တစ်ခုချင်းစီ နှိပ်ရတာ ဘဝမှာ ဒီလောက်ကြောက်ဖို့ကောင်းမယ်လို့ တစ်ခါမှ စိတ်ကူးမယဉ်မိခဲ့။

" တီ တီ တီ "

ဟော ဖုန်းဝင်သွားပြီ ..။

" ဟယ်လို မအယ်နီ ...။ ကျွန်တော် မအယ်နီကို ချစ်....။ "

တစ်ဖက်ဖုန်းကနေ ယောကျ်ားသံနဲ့

" ဟယ်လို "

ဖုန်းခွက်ကို ကမန်းကတန်းချရင်း

" ဟာ ယောကျ်ားသံကြီးဟ ။ ဘာလား ၊ မအယ်နီမှာ ဆိုင်သူမရှိပါဘူး ။ ထပ်ဆက်မယ်ကွာ။ "

" တီ ... တီ , ဟယ်လို "

" ဟုတ်ကဲ့၊ ကျွန်တော် မအယ်နီနဲ့ ဖုန်းပြောချင်လို့ပါ "

" ဇော်ဇော် မင်းဖုန်းမှားနှိပ်နေတယ် ၊ ငါလေ မင်း သူငယ်ချင်း "

ခဏကြောင်ပြီး နှိပ်မိတဲ့ဖုန်းနံပါတ်ကိုကြည့်မိတော့မှ သူငယ်ချင်း အရင်းခေါက်ခေါက်ကြီး နံပါတ်ဖြစ်နေ။

" ဟာကွာ၊ ငါတော့ တလွဲတွေလုပ်ပြန်ပြီ "

" နေဦး ၊ သားကြီး ၊ ဖုန်းမချနဲ့ဦး ၊ မင်းစောနက ဘယ်သူ့ကို ချစ်တယ်ပြောတာလဲ ၊ပြောစမ်း "

" နေဦးကွာ နောက်မှပြောမယ် "

" ဟာ ဟျောင့် ဟျောင့် ငါလက်ဖက်ရည်ဆိုင်မှာ စောင့်နေမယ် အခုလာ... "

" ဝှပ် "

မရဘူး ။ ဒီနေ့တော့ မအယ်နီကို ဒီစကားသေချာပြောရမယ် ။ ရေတစ်ခွက်လောက် ပြေးသောက်ပြီး ဖုန်းနံပါတ်ကို ထပ်နှိပ်သည်။

" သူညာ ကိုး ............. "

" ဟုတ်ပြီ ၊သေချာတယ် ဒါ မအယ်နီ အိမ်ဖုန်း ။ "

" တီ ... တီ... ၊ ဟယ်လို "

နှလုံးခုန်တဲ့အသံက ဖုန်းထဲကနေ ပေါက်ထွက်သွားမလားတောင် ထင်ရတဲ့အထိ ရင်ထဲပြောင်းဆန်နေသည်။

" မအယ်နီ ၊ ကျွန်တော်ပါ "

" အင်း ၊ ပြောလေ "

" ကျွန်တော် အရိုးသားဆုံးစိတ်နဲ့ ဝန်ခံပါရစေ .. "

" ကျွန်တော် မအယ်နီကို ချစ်တယ် "

ကြားမှာ လိုင်းပဲ ပြတ်တောက်သွားတာလား ၊ အသက်ရှူပဲ ရပ်သွားတာလား။ တစ်လောကလုံး တိတ်ဆိတ်သွားသည် ..။

" မအယ်နီ ကျွန်တော်.... "

" ဂွပ် "

ဖုန်းတင် ပစ်ချခံလိုက်ရတာမဟုတ် နှလုံးသားပါ ပစ်ချခံလိုက်ရသည် ..။

---

တနင်္လာနေ့မနက် Administration ကောင်တာသို့ ခြေလှမ်းများ လှမ်းခဲ့သည် ။

" မအယ်နီ .... "

သူမ မော့ကြည့်သည် ...။

" ကျွန်တော် မအယ်နီစီက ငှားထားတဲ့ စာအုပ်လေး ပြန်လာပေးတာပါ "

လှည့်ထွက်ခဲ့သည်။

အမှန်တော့ ကျွန်တော် လက်မလျှော့ခဲ့ပါ ။ စာအုပ်ကြားထဲ ချစ်သဝဏ်လွှာ ထည့်ခဲ့ပါသည်။ မအယ်နီတွေ့ရင် အကြောင်းပြန်ပါလိမ့်မည်။

" ဟျောင့် ဟျောင့် ထဟ ထ။ မင်းကို ဖုန်းဆိုင်က ဖုန်းလာ နေတယ် ပြောတယ် "

" တနင်္ဂနွေနေ့ကြီးဟာ မထဘူး မင်းပဲကိုင်လိုက် သွား "

" မအယ်နီဖုန်းတဲ့ဟ "

ငေါက်ခနဲ ထထိုင်ပြီး ဖုန်းဆိုင်ကို ပြေးသည် ...။ ရွှေတိဂုံ ပန်းခြံကို လာခဲ့ပါလို့ ချစ်ရသူက ပြောသည်။

" ယောက်ျားပဲ အဖြေကိုလက်ခံနိုင်ရမှာပေါ့ကွ "

လို့ သူငယ်ချင်းက ကြိုနှစ်သိမ့်ပေးရှာပါသည်။ ပန်းခြံကိုသွားသည့် လမ်းမှာ အမေရွတ်ဖတ်လေ့ရှိသည့် ဘုရားစာမှန်သမျှ ရွတ်သည်။ အချစ်စစ်ပွဲမှာတော့ မြှားထိပြီး စစ်မရှုံးရပါစေနဲ့။

---

" မအယ်နီ "

" ပြောပါ ကျွန်တော်လက်ခံရပါတယ် "

သူမ စလင်းဘတ်ထဲက ဘောပင်ကိုထုတ်သည်..။

" ရှင့်လက်ခဏပေး "

မရဲတရဲ လက်ကိုထုတ်ပေးရသည်။ သူမ တစ်စုံတစ်ခုကို ကျွန်တော့် လက်ပေါ်မှာ ရေးသည်။

" ဂျပြီ၊ ရှင့်အတွက်အဖြေ "

ကျွန်တော် မကြည့်ရဲပါလက်ကို ။ သူမကို လှမ်းကြည့်တော့ ပြုံးပြသည်။ လက်ကို ဖွင့်ကြည့်သည်။

" ချစ်တယ် " ဆိုတဲ့စကားနှစ်လုံးဟာ ကျွန်တော့်လက်ပေါ်က လက္ခဏာတွေကိုတောင် ပြောင်းလဲပစ်စေသည်။

---

## ( အခန်း - ၂ )

" ကျွန်တော် မအယ်နီစီက ငှားထားတဲ့ စာအုပ်လေး ပြန်လာပေးတာပါ "

အယ်နီ မော့ကြည့်သည်။

စာအုပ်ကို အဖုံးဖုံးထားပေးခြင်းကလွဲ စာအုပ်သည် အယ်နီ ပေးလိုက်သည့်အတိုင်းပင် ။

သိသည်ဆိုသည့် အပြုံးတစ်ချက် ပြုံးပြလိုက်ပြီး စာရင်း ဆက်ငုံ့ရေးသည်။ ကောင်တာနားကနေ သူ မသွားသေးပါ...။

" ကျွန်တော် စာအုပ်ထဲ စာထည့်ထားတယ် "

အယ်နီ့ ရင်ထဲ တစ်ချချဖြုတ်ပြေးသွားသည်။

---

ရုံးကလူတွေ ရိပ်မိမှာစိုးလို့ စာကို ရုံးမှာ ဖွင့်မဖတ်ရဲပါ။ အိမ်ရောက်မှ ဖတ်သည်။

" သို့

မအယ်နီ

ကျွန်တော် မအယ်နီကို ချစ်သည်။

ဆက်ရေးလျှင်လည်း ချစ်သည့်အကြောင်းတွေပဲ ရေးမိမှာ ဖြစ်လို့ ဒီလောက်နဲ့ပဲ ရပ်သည်။

ဇော်ဇော် "

" ဟယ့်တော် ရည်းစားစာကလည်း ဘယ်နှယ့် " လို့ တွေးပြီး အယ်နီပြုံးမိသည်။ ဟုတ်ပါသည်။ အယ်နီ ချစ်သူ ရခဲ့သည်။

**Company** တစ်ခုတည်း အလုပ်လုပ်ပေမဲ့ ဌာန မတူသည်မို့ တစ်ပတ်မှာ ငါးရက်လောက်က တွေ့ရခဲ့သည်။

အယ်နီတို့ နှစ်ဦး မေတ္တာမျှခြင်းကို နှစ်ဦးကြားပဲ ထားသည်။ တစ်ချိန်ချိန်ကျရင်တော့ မိတ်ဆွေတွေ သိပါလိမ့်မည်။

စနေ ၊ တနင်္ဂနွေ ရုံးပိတ်ရက်တွေရောက်လျှင် မနက်ပိုင်းမှာ နှစ်ယောက် တူတူ ဘုရားသွားသည် ။ ဘုရား တန်ဆောင်းတွေမှာ ထိုင်ပြီး စကားစမြည် ပြောသည်။ နေ့လည် ရောက်လျှင် ကောင်းနိုးရာရာ မုန့်ဆိုင်၊ ထမင်းဆိုင် ထိုင်သည်။ အစား အသောက်တွေ အရသာရှိမရှိ သိပ်သတိမထားမိပါ ။ သတိထားမိ တာဆိုလို့ ချစ်ရသူနဲ့ ထမင်းလက်ဆုံစားရခြင်းက ချိုမြိန်သည်။ ပြီးလျှင် ရုပ်ရှင်ရုံသွားသည်။ ရုပ်ရှင်ရုံမှာ သူ'သည် ဘောလိဝုဒ် ကားပဲ အမြဲ လက်မှတ်ဝယ်သည်။

" ဘောလိဝုဒ်ကား ကြိုက်တာလား " လို့ မေးကြည့်တော့ ပြန်ဖြေသည်။

" ရုပ်ရှင်ကြည့်ရင် ဘောလိဝုဒ်ကားက အချိန်ပိုကြာတယ် လေ "

ညနေစောင်းလျှင် အိမ်ရှေ့အထိ သူ ' ပြန်လိုက်ပို့သည်။

ရုံးတွင်းအချစ်ဇာတ်လမ်းလို ရိုမန်တစ်ဆန်ဆန်တော့မဟုတ်ခဲ့ပါ ။ ဒါပေမဲ့ နှစ်ယောက်လုံးအတွက်တော့ မေ့မရတဲ့နေ့တွေအဖြစ် ဘဝမှတ်တမ်းဖြစ်ရပါသည်။

---

စနေနေ့ မနက်ခင်းမှာ မိုးရွာခြင်းက သီးကြိုနေပေမယ့် နှစ်ယောက်အတူဆုံနေကြ ဘုရားရဲ့ မြောက်ဘက်မုခ်ကို အယ်နီ ထွက်လာခဲ့သည်။ ဘုရား မြောက်ဘက်မုခ်နား ရောက်တော့ ကောင်မလေးတစ်ယောက် အယ်နီ့ကို ရူးရူးရဲရဲ သေသေချာ စိုက်ကြည့်နေသည်ကို အယ်နီသတိထားမိသည်။ ကောင်မလေးက အသားဖြူသည် ၊ ခေတ်ဆန်သည် ။ အယ်နီ့ချစ်သူ စောင့်နေကျ နေရာတွင် ထိုကောင်မလေးရပ်နေသည်။ ထိုကောင်မလေးဘက်က နေ အယ်နီ့စီ ခြေလှမ်းလှမ်းလာသည် ။

" မအယ်နီ....လား မသိဘူး "

" ဟုတ်ပါတယ် "

ကောင်မလေးကြည့်ရတာ ရှက်နေပုံရသည်..။ ပါးတွေ နီမြန်းနေသည် ..။

" ဟိုဟာ .... ကိုကြီး လွှတ်လိုက်တာပါ ..။ ကိုကြီး.. မနေ့ညကတင် အလုပ်ကိစ္စနဲ့ ခရီးထွက်သွားတာ ညီမကို လာပြောခိုင်းလို့ပါ .. "

ရုတ်တရုတ်မို့ အယ်နီကြောင်နေသည်။ ညီမတွေ ရှိသည်လို့တော့ သူ'ပြောဖူးသည်။

" အော် အင်း အင်း "

" အဲ့တာဆို .. ဒါပဲနော် အစ်မ "

စကားဆုံးတာနှင့် ကောင်မလေးသည် ထွက်ပေါက်သို့ပြေးသည်။

စနေ၊ တနင်္ဂနွေ သူ'မပြန်လာပါ .။

သူတို့ငှာနသည် အဲ့လို အလုပ်ခရီး ဗြုန်းစားထွက်တတ်သည်ကို သိသည့်အတွက် အယ်နီအတွက်တော့ ဘာမှမဖြစ်ပါ ။ ချစ်သူ ပြန်လာမည့်ရက်ကို မျှော်ရုံသာ ။

"Administration အဖွဲ့က မအယ်နီ ဖုန်းလာတယ်"

" ဟယ်လို ၊ ဟုတ်ကဲ့ Assistant manager မအယ်နီပါ "

" မ "

" ဟုတ်ကဲ့ "

ဟုတ်သည် ။ သူ'သည် သူ့ထက်ကြီးသော အယ်နီကို " မ " ဟု ခေါ်သည် ။ အယ်နီကလည်း သူ့နာမည် ဇော်ဇော်ကို " ဇော် " လို့ ချစ်စနိုးခေါ်သည်။ ရုံးဖုန်းနဲ့ ပြောရသည် ဖြစ်သည်အတွက် " ဟုတ်ကဲ့ " လို့ ဟန်ဆောင်ပန်ဆောင် ပြောရသည်။

" ညတွင်းချင်း သွားရတာမို့ ၊ ညီမ အငယ်ဆုံးလေးကို လွှတ်လိုက်တယ်၊ တွေ့ရဲ့လား "

" အင်း တွေ့တယ် "

အလွမ်းပြေ အသံကြားရပြီးနောက် ဖုန်းချလိုက်သည်။ ချစ်ရသူ တစ်ပတ်နေရင် ပြန်လာမည်..။

( အခန်း - ၃ )

ဖုန်းခေါ်မည်။ မအယ်နီအသံကြားချင်မိသည်..။

" ဟယ်လို ၊ ဟုတ်ကဲ့ ၊ အမိန့်ရှိပါရှင် "

" Administration အဖွဲ့က Assistant manager မအယ်နီကို အလုပ်ကိစ္စပြောစရာရှိလို့ပါ "

" ဟုတ်ကဲ့ ၊ ခဏစောင့်ပါရှင် "

စက္ကန့်အနည်းငယ်ကြာပြီးနောက်

" ဟယ်လို ၊ ဟုတ်ကဲ့ Assistant manager မအယ်နီပါ "

ချစ်ရသူအသံက ရင်ကို နွေးစေသည်။

" မ "

" ဟုတ်ကဲ့ "

ဟုတ်ကဲ့ ဆိုသည့်အသံသည် ရယ်ချင်စိတ်ကို နိုးထစေသည်..။ ဖုန်းခွက်ကိုကြည့်ပြီး ရယ်လျှင် ဖုန်းဆိုင်က သူ့ကို ကျပ်မပြည့်ဘူး ထင်မှာစိုးသောကြောင့် မျက်နှာပိုးသတ်ရသည်။

" ညတွင်းချင်း သွားရတာမို့ ၊ ညီမ အငယ်ဆုံးလေးကို လွှတ် လိုက်တယ်၊ တွေ့ရဲ့လား "

" အင်း၊ တွေ့တယ် "

" အနားမှာ လူရှိနေတာလား မ "

" ရုံးကိစ္စတွေကို ရုံးရောက်မှ အသေးစိတ်ပြောပြလို့ ရပါတယ် လူကြီးမင်း "

" တစ်ပတ်နေရင် ကျွန်တော်ပြန်လာခဲ့မယ် "

" ကြားရတာ ဝမ်းသာပါတယ် "

" ဘာမှာဦးမလဲ ၊ တခုခုဝယ်လာခဲ့ရမလား ၊ ဘာစား ချင်သလဲ "

" မလိုပါဘူး "

" ကျွန်တော် အခုရယ်ချင်နေတာသိလား ၊ ဖုန်းဆိုင်မှာ မလို့ မျက်နှာပိုးသတ်ထားရတယ် "

" တူတူပါပဲ "

" အဲ့တာဆို ဒါပဲလေ မ "

" ဟုတ်ကဲ့ ကောင်းသောနေ့ရက်လေး.. "

" နေဦး ချစ်တယ်နော် အာဘွား "

ကျွန်တော့်ဘက်က စ၍ ဖုန်းချလိုက်သည်။ မချလို့မရတော့ လူက ရယ်ချင်သည်ကို အောင့်ထားရတာ မျက်ရည်ပါဝဲလာပြီ ။ ချစ်ခြင်းက တော်တော်အသည်းယားဖို့ကောင်းတာပါလား။

---

မအယ်နီက ဒူးရင်းသီးကြိုက်သည် ပြောဖူးသောကြောင့် ဒူးရင်းသီးယို ဝယ်ချလာသည်။ အိမ်က အမေနှင့် ညီမလတ်တို့ သည်လည်း ဒူးရင်းသီးကြိုက်ကြသည် ။ သူတို့နှစ်ယောက် ဒူးရင်းသီး

စားလျှင် အနံ့နံလွန်းသောကြောင့် ထိုနေ့တွေ ကျွန်တော် အိမ်မှာ မနေ၊ သူငယ်ချင်းအိမ်သွားနေတတ်သည်။ ဒီလိုပါပဲ၊ အချစ်ရူးရင် ဆေးမရှိဘူးဆိုတာ စကားသက်သက်မှမဟုတ်တာ ..။

ရုံးကိုရောက်သည်နှင့် Administration အဖွဲ့စီသို့ ခြေဦး လှည့်သည်။ ကောင်တာပေါ်တွင် လက်ဆောင်ထုပ် ထားခဲ့သည်။ အထုပ်ပေါ်တွင် " မအယ်နီ စီသို့ "

---

စနေနေ့တွင် ထုံးစံအတိုင်း မြောက်ဘက်မုခ် မှာစောင့်သည်။ မတွေ့ရတာကြာပြီဖြစ်သည့် ချစ်သူကို လွမ်းသည် ...။

ညနေစောင်းတော့ အရင်ကလို ရုပ်ရှင်ရုံမှာ ရုပ်ရှင်ကြည့်သည်။ နေကြာစေ့တစ်ထုပ်ဝယ်သည်။ ရုပ်ရှင်ရုံထဲရောက်တော့ မ'ကို နေကြာစေ့လေးတွေခွာပေးသည်။ မ'က ကိုယ့်ဘာသာ ခွာစားတာ အရသာပိုရှိသည် ဟုဆိုကာငြင်းသည်။ အသည်းယားလာသည် ။

ပါးနုနုလေးတွေကိုလည်း အသည်းယားလာသည် ..။ ရင်တလှပ်လှပ် ပိုခုန်လာသည်...။

တနင်္ဂနွေနေ့တွင် မ'သည် ပါးကွက်အကြီးကြီးတွေလိမ်းလာသည်။ ကျွန်တော် မနေနိုင်မထိုင်နိုင် " ဘာဖြစ်လို့လဲ " ဟုမေးလိုက်သည်။

" ပျားတုပ်သွားလို့ " ဟုဖြေသည်။

ဟုတ်သည်။ ချစ်ရသူ၏ ပါးသည် နုလွန်းသည်။ ကျွန်တော့်အနမ်းသည် ချစ်ရသူ၏ ပါးတွေကို ပန်းရောင်သန်းစေသည် ...။

---

ရုံးလာမည့် ဖယ်ရီ လမ်းကြောင်းကနေ ကျွန်တော် နေ့တိုင်း ရုံးကို သွားသည်။ တခြားလမ်းကနေသွားလျှင် ရုံးကိုအချိန်မှီရောက်သည်က မှန်ပေမဲ့ မ' တစ်ခါတစ်လေ ဖယ်ရီမမှီခဲ့ရင် ဝင်ခေါ်မည့် အကြံဖြင့် နေ့တိုင်း ဖယ်ရီလမ်းကြောင်းက သွားသည်။ ကားကတော့ ကိုယ်ပိုင်ကားမဟုတ်..။ ရုံးက အလုပ်ကိစ္စအတွက်သွားရန် ပေးထားသည့်ကားလေးဖြစ်သည် ။ ဖယ်ရီမှတ်တိုင်မှာ ကောင်မလေး တစ်ယောက် ရပ်နေသည် ။ သေချာကြည့်မှ နည်းပညာဌာနက

နန္ဒာဖြစ်သည် ။ လက်ကနာရီကြည့်တော့ ၈း45။ ဘယ်ဖယ်ရီမှ မလာတော့နိုင်တော့ ။ ကားထိုးရပ်လိုက်သည် ။

" နန္ဒာ ၊ ဖယ်ရီ လွတ်သွားတယ်ဆိုရင် ကျွန်တော်နဲ့ ရုံးအတူတူသွားမလား ၊ လမ်းကြုံပေါ့ "

" ဟုတ်ကဲ့ "

ဝင်ထိုင်သည် ။ ရုံးကိုရောက်တော့ ဆင်းသွားသည်။ လုပ်ကိုင်ဖော်ဖက်ချင်း ရုံးအတူတူသွားတာ ကိစ္စကြီးမဟုတ်ပေမဲ့ ပတ်ဝန်းကျင်ကမျက်လုံးတချို့ကို သတိမထားမိခဲ့သလို ပါးစပ်တွေကိုလည်း မပိတ်နိုင်ခဲ့ပါ •။

---

ဒီတစ်ခေါက် စနေနေ့သည် ထူးခြားသည်။ မ ' သည် ပိတ်ရက်တွင် သူမ၏ အစ်မဝမ်းကွဲစီ သွားနေမည်ဖြစ်လို့ လိုက်ပို့ပေးပါဟု ပြောသည်။ အစ်မဝမ်းကွဲအိမ်သို့ရောက်တော့ အနေအထိုင်ဆင်ခြင်ရသည်။ Gentleman ပုံစံပေါက်အောင်နေရသည်။

" ဇော်၊ ဒါက အစ်မဝမ်းကွဲလေ "

" ဟုတ်ကဲ့၊ တွေ့ရတာ ဝမ်းသာပါတယ်ဗျ။ ကျွန်တော်က မအယ်နီရဲ့ လုပ်ဖော်ကိုင်ဖက်ပါ "

ကျွန်တော့်ကို ခြေဆုံးခေါင်းဆုံး ကြည့်သည်။

" ငါက ငယ်ရာကကြီးလာတာပါ အကုန်သိတယ် " ဟူသည့် အပြုံးနှင့် ကျွန်တော့်ကိုပြုံးပြပြီး

" ကိုယ့်အိမ်လိုပဲသဘောထားနော် ။ နောက်လည်း လမ်းကြုံရင် ဝင်လည်ပါ "

ကြာကြာနေရန်မသင့်တော့ ။ အာလာပသလာပပြောပြီးနောက် မအယ်နီက ကျွန်တော်ပြန်မည်ကို လမ်းထိပ်အထိ ပြန်လိုက်ပို့ပေးသည်။ မပြန်ခင် မ ' သည် မေးခွန်းတစ်ခုမေးသည်..။

" နည်းပညာ ဌာနက နန္ဒာကို သိလား "

မိန်းကလေးတို့မည်သည် အဖြေသိပြီးသားမေးခွန်းကို မေးတတ်စမြဲပါ ။ ကျွန်တော် မ ' စီကနေ အတွေးများစွာနှင့် ပြန်လာခဲ့သည်..။ မနက်ဖြန် ကျွန်တော်တို့မတွေ့ကြတော့ပါ..။

## ( အခန်း - ၄ )

" ဟဲ့ ငါလေ မနက်ကသိလား၊ ယာဉ်ဦးစီးဌာနက ဇော်ဇော့် ကားထဲကနေ နည်းပညာဌာနကနန္ဒာ ဆင်းလာတာ တွေ့လိုက်တယ်။ ဇော်ဇော်ကလေ ခန့်တော့ ခန့်ပေမယ့် ရုပ်တယ်လို့တော့ ကြားတာပဲ ငါ့နှယ် "

ရုပ်ကွက်ထဲတွင်သာ သတင်းပေါင်းစုံသိသော CCTV များ ရှိသည် မဟုတ် ။ အလုပ်တွင်လည်း သတင်းစုံသည့် CCTV အဖွဲ့ရှိသည်။ ချစ်ရသူ နာမည်ပါလာတော့ ဇဝေဇဝါ ဖြစ်မိသည်။ မယုံတာ မဟုတ် ယုံသည်။ သို့သော် အယ်နီ အယုံမလွန်ရဲပါ ။ တစ်သက်လုံး လက်တွဲဖော် မယူတော့ပါလို့ စဉ်းစားပြီးမှ သူ နှင့်တွေ့ခဲ့သည့် အတွက် မေတ္တာသည် စက္ကန့်နှင့်အမျှတိုးသည်။ သို့သော် တိုးသော မေတ္တာကို မနာကျင်စေချင်သောကြောင့် သူမ ဖြတ်သင့်တနက ဖြတ်ရမည်။

" နည်းပညာဌာနက နန္ဒာ့ကို သိလား "

" ဘာလို့မေးတာလဲ "

" အင်း ၊ ဒီတိုင်းမေးကြည့်တာပါ "

ဇော့် ' မျက်နှာသည် တည်သည်။ အနားကပ်လာသည် ။

" လုပ်ဖော်ကိုင်ဖက်တွေပါ ၊ ဘာမှမပက်သက်ပါဘူး "

အယ်နီ့ကိုဖက်သည်။ နွေးထွေးသည် ။

" ယုံရဲ့လား "

" ချစ်တော့ ယုံရတာပေါ့ "

" ဟော bus ကား လာပြီ ။ သွားတော့လေ ။ မနက်ဖြန် အယ်နီ ဒီမှာပဲနေမှာမို့ မလာနဲ့တော့နော် "

ခေါင်းငြိမ့်ပြသည် ။ Bus ကားပေါ်မတက်ခင် ပါးတစ်ဖက်ကို အနမ်းပေးသွားသည် ။

" ချစ်တယ်နော် " တဲ့ . . . ။

---

Valentine day နီးလာသည်။

" မ ' chocolate ကြိုက်လား " ဟု သူမေးသည်။

ခါးသက်သက် အီဆိမ့်ဆိမ့် ချောကလက်ကို အယ်နီမကြိုက်ပါ။ ဟန်ဆောင်ပန်ဆောင်လည်း မကြိုက်နိုင်ပါ။

" မကြိုက်ဘူး "

" ဒါဆို ဘာလိုချင်လဲ "

" ဘာမှမလိုချင်ဘူး "

အယ်နီတို့ company သည် သူ့ခေတ်နဲ့သူ့အခါတုန်းက ထိပ်တန်း company တစ်ခုဖြစ်သည်။ Foreigner တွေလည်းလာသည်။ ထို့ကြောင့် အယ်နီတို့ကို ဘာသာစကားသင်တန်းတွေတတ်ခိုင်းသည်။ သင်တန်းခ ၊ ဝတ်စုံခ အကုန် company က စိုက်ထုတ်ပေးသည်။ ကြော်ငြာ ၊ ပရိုမိုရှင်းတွေကိုလည်း ကျော်ကြားသည့် ရုပ်ရှင်မင်းသား၊ မင်းသမီးတွေနှင့်သာ အလုပ်လုပ်သည်။ ဒါကြောင့် အယ်နီ့လစာသည် တစ်ကိုယ်စာအတွက် လုံလောက်ရုံမက ပိုတောင်ပိုသည်။ ယောက်ပုံ့ရအောင်လည်း မိဘနှစ်ပါးစလုံးမရှိကြတော့ ။

ညီအစ်ကို မောင်နှမတွေကလည်း ကိုယ့်ခြေထောက်ပေါ်ကိုယ် ရပ်နိုင်နေကြပြီ။ သို့သော် ဇော် ' သည် မိသားစုမှာ သား အကြီးဆုံး ဖြစ်သည်။ မိသားစုကို ထောက်ရသည်။ လစာသည် မလိုတောင် မပိုမှန်း အယ်နီ သိသည်။ ချစ်နေလျှင်ရပြီ ။ ဘာမှ မလိုချင်ပါ ။

---

Valentine day မှာ ရုံးမပိတ်ပါ။ ဒါပေမဲ့ မနေ့ညနေက ဇော် ' သည် ဖုန်းဆက်ပြီး အယ်နီ့ကို မြောက်ဘက်မုခ်ဦးသို့ မနက် စောစောလာခဲ့ရန် ချိန်းသည် ။ ထို့အတွက် မနက်လာကြိုမည့် ဖယ်ရီကားကိုပါ လာမကြိုရန် လှမ်းအကြောင်းကြားလိုက်သည်။

" မ အတွက် "

စက္ကူအိတ်လေးလှမ်းပေးသည် . .။ ယူသည် . .။ ထုတ်ကြည့်သည် . .။ မဟူရာအရောင်လေးပေါ်မှာ ပန်းပွင့်လေးတွေ ဖွဲ့နွဲ့စီထိုးထားတဲ့ လက်ကိုင်အိတ်ကလေးတစ်လုံးဖြစ်သည်။ အယ်နီ့လက်ကို လှမ်းဆွဲသည် ။

" လာ မနက်စာသွားစားကြမယ် "

" ခဏနေဦး "

အယ်နီအိတ်ထဲက ပစ္စည်းတွေထုတ်ပြီး စက္ကူအိတ်ထဲကို အယ်နီကိုင်သည့်အိတ်ထည့်လိုက်သည်။ ဇော် ' ပေးသည့်အိတ်ထဲကို ပစ္စည်းတွေ ပြန်ပြောင်းထည့်ရင်း လက်မှာလွယ်လိုက်သည်။ ဇော် ' ပြုံးသည် ။ အယ်နီလည်း ပြုံးသည်။

ထို့နေ့မှစ၍ အယ်နီသည် မဟူရာအိတ်လေးကို ဘယ်သွားသွား ယူသွားသည်။

## ( အခန်း – ၅ )

မ ' မှာ ရုံး၌ အချစ်ဆုံးလုပ်ဖော်ကိုင်ဖက် ဒေစီရှိသည် ။ ကျွန်တော်နှင့် တွဲသည်ကိုပင် မ ' သည် မဒေစီကိုမပြောပြခဲ့ပါ။ ကျွန်တော်သည် အခွင့်ကြုံရင်ကြုံသလို မ'ကို ရုံးဆင်းချိန်မှာ သွားသွားကြိုပြီး မ'နေသည့် တိုက်ခန်းအောက်ထိ အမြဲလိုက်ပို့သည် ။ သို့သော် မ ' သည် တိုက်ခန်းထဲသို့ ဘယ်သောအခါမှမဖိတ် ။ အတူနေသည့် မိသားစုဝင်နှင့်လည်း မိတ်မဆက်ပေး ။

တစ်ညနေတွင်

" မ ' ကျွန်တော့်ကို မိတ်မဆက်ပေးတော့ဘူးလား "

" ဟင် ဘယ်သူနဲ့လဲ "

ကြောင်တောင်တောင် မျက်လုံးလေးတွေနှင့် ပြန်ဖြေသည်။

" တိုက်ခန်းမှာအတူနေတဲ့ မိသားစုဝင်နဲ့ပေါ့ "

" အယ် အယ်နီက တစ်ယောက်တည်းနေတာလေ "

" ဗျာ "

" အရင်က အတူနေတဲ့ အယ်နီ့ညီမလေးက အမျိုးတွေ အိမ်သွားနေတာ တစ်လလောက်ရှိပြီ ။ အာ့ကြောင့် အခု တော့ တစ်ယောက်တည်းနေတာပဲပေါ့ "

" ဟာဗျာ တစ်ယောက်တည်းလား ၊ စိတ်မချဘူး "

" စိတ်မချတော့ရော ၊ ဘာလုပ်မို့လဲ "

" ကျွန်တော် လာအိပ်မယ်လေ "

" ရှင် .. "

" မဟုတ် ... မဟုတ်ဘူးလေ အဲ့သဘော ။ ဟိုဟာဗျာ ဒီလို ၊ အခုခေတ်ကလေ သူခိုးတအားကပ်တယ်လေ ။ ကျွန်တော်က လာစောင့်အိပ်ပေးမယ် ပြောတာပါ "

" အော် အဲ့သလိုကို "

" ဟိုဟာ ရလား ။ မအယ်နီ ယုံလား "

" ရတယ်လေ "

ကျွန်တော် အိမ်ပြန်မအိပ်တာနှင့် အမေသည် ခေါင်းခေါက်တတ်သည် ။ သို့သော် အလုပ်ကိစ္စနှင့် ရုံးမှာ အိပ်ရသည်ဆိုရင်တော့ ယုံသည် ။ မ ' က တိုက်ခန်းမှာ လာအိပ်လို့ရသည် ပြောပြီး ကတည်းက အလုပ်ကိစ္စနဲ့ အပြင်မှာ သုံးရက်အိပ်ရမည်ဆိုလျှင် အိမ်ကို ငါးရက် ဟု ထပ်တိုးမုသားသုံးတတ်လာသည် ။ ကျန်သည့် နှစ်ရက်တွင် မ 'ကို စောင့်ရှောက်မည် ။ သားမိုက်ကို ခွင့်လွှတ်ပါ မေမေ ။ အချစ်ကြောင့် ရူးခဲ့ပြီ ။

မ ' အိမ် ၌ သွားအိပ်ရာတွင် ကျွန်တော်တို့နှစ်ယောက်သည် ဘာမှ မမှားယွင်းခဲ့ပါ။ ကျွန်တော်သည် မ ' တစ်ယောက်တည်း ဖြစ်နေသည်မို့ စိတ်ပူ၍ စောင့်အိပ်သည် ။ မ ' ကလည်း ယုံကြည်သည်မို့ ခွင့်ပြုသည် ။ မ 'က အခန်းထဲတွင်အိပ်သည် ။ ကျွန်တော်သည် အိမ်ဦးခန်းမှာ အိပ်သည် ။

ယောကျ်ားတို့မည်သည် တကယ်ချစ်ပါက ချစ်ရသူ စိတ်ခုမှာ ကြောက်သည် ၊ တန်ဖိုးထားသည် ၊ အလေးထားသည် ။ ကျွန်တော် သည် ထိုသို့ကဲ့ပင် ။

မနက်ရောက်လျှင် ရုံးကို bus ကား စီးသွားသည်။ ကျွန်တော်နှင့် အတူသွားသည့်နေ့များတွင် မ ' သည် ဖယ်ရီ မစီးပါ ။ bus ကားစီးရာတွင် လူကျပ်သည်။ မ'သည် ရင်ခွင်မှီအရပ်ဖြစ်၍ လက်တန်းကို မမှီပါ။ လူအတိုးမခံရအောင် ကျွန်တော့် ရင်ခွင်ထဲ ထည့်ထား ရသည် ။ Bus ကားများ လူကျပ်ရင် ကျွန်တော် သိပ်ပျော်တာပဲ ။

" အယ်နီရေ၊ အယ်နီ ရုံးတူတူသွားကြမယ်လေ နိုးပြီလား "

ဗုဒ္ဓ မြတ်စွာ ။ ဒီနေ့ မနက်စောစောမှ ဘယ်သူလဲမသိ ၊ မ' တိုက်ခန်းတံခါးကို လာခေါက်နေသည်။ ကျွန်တော် ပုန်းရန် နေရာရှာသည် ။ သို့သော် မတွေ့ ။

" မ ' မ ' ဘယ်လိုလုပ်ရမလဲ ။ ကျွန်တော် ပြတင်းပေါက်ကနေ ခုန်ချလိုက်ရမလား "

" မလုပ် ... မလုပ်နဲ့လေ အဲ့လောက်မလိုဘူး ။ ဒေစီ့ အသံထင်တယ် "

" ဗျာ မဒေစီ ။ ကျွန်တော်နဲ့ တွဲတာကို မ'က သူ့ကို မပြောဘူးဆိုပြီး စိတ်ဆိုးသွားမှ ... "

" ငြိမ်ငြိမ်နေပါ အယ်နီရှင်းပါမယ် "

မ ' သည် တံခါးကို မျက်နှာမြင်ရုံမျှလေး ဖွင့်ပြီး စကား ပြောနေသည်။

" အယ်နီ ခုမှ နိုးတာလား။ မြန်မြန်အဝတ်လဲ ရုံးတူတူ သွားကြမယ် "

" ဟင် ... အင်း ... ခဏ .. စောင့် "

ရှင်းမယ် ဆိုပြီး ထွက်သွားသော မ ' သည် မလိမ်တတ်ဘဲ စကားထစ်နေသောကြောင့် ကျွန်တော် ခိုးရယ်ရသည်။

" အယ်နီ နင့်တိုက်ခန်းထဲ ဘယ်သူရှိနေတာလဲ "

ကျွန်တော် ပြတင်းပေါက်က ခုန်ချဖို့ ဆိုင်းပြင်ရသည်။ ဘုရား ဘုရား ခုန်ချရမှာ အမြင့်ကြီး မဖြစ်သေးပါဘူး။

" ဟင် ဒေ..စီ နင် ဘယ်လိုသိ "

" ဒီမှာလေ ယောကျ်ားလေး ဖိနပ်တစ်ရံ "

သွားပြီ ။ ဖုံးမရတော့ပါ ။ မိပြီ။ ထိုနေ့ ရုံးသွားရာတွင် မဒေစီသည် သူမကားပေါ် ကျွန်တော်တို့ နှစ်ယောက်ကို တင်ခေါ်သွားသည်။ ရုံးရောက်ခါနီး တစ်မှတ်တိုင်အလိုမှာ

" ကိုဇော်ဇော် ရှင်ဆင်း "

" ဗျာ "

" ကားပေါ်ကဆင်းလို့။ ဒေစီ အယ်နီနဲ့ ဝင်စရာရှိတယ် "

" ကျွန်တော့်ပါ ခေါ်သွားလေ "

" ဟာ မရပါဘူး ရှင်ဆင်း "

ကားပေါ်ကနေ မောင်းချခံလိုက်ရသည်။

( အခန်း - ၆ )

" မဒေစီရေ ကျွန်တော် မအယ်နီနဲ့ အပြင်ခဏသွားမလို့ ။ တစ်ယောက်ယောက်က မေးရင် ကျွန်တော် ရုံးခွဲကို marketing သွားဆင်းတယ် ပြောပေးနော် "

" အယ်နီ နင် နင် မသွားနဲ့နော် "

" ဒေစီကလည်း ခဏပါပဲ နော် နော် "

" နင်တို့နှစ်ယောက်ကတော့လေ ငါက ကြားညပ်နေပြီဟာ "

မဒေစီ သိသွားကတည်းက ကျွန်တော်တို့နှစ်ယောက်ကြား မဒေစီသည် သုံးဘီး ဖြစ်ခဲ့ရသည် ။

သကြော်န် နီးလာပြီ ။ ရုံးတွင်းသကြော်န်လုပ်ဖို့ အထက်က စီစဉ်ပေးသည်။ နာမည်ကြီးအနုပညာရှင်တွေကို ဖိတ်ခေါ်ပြီး မဏ္ဍပ်ဆောက်သည် ။ ရုံးတွင်း၌ လည်း ကြိတ်ကြွေနေသူကို ရေလောင်းလို့လောင်း နဲ့ စနောက်နေကြသည်မှာ ထုံးစံပင် ။ သို့သော် ကျွန်တော်သည် မ ' ကို ရေမလောင်းပါ ။ သကြော်န်မှ မကျသေးဘဲ ။

Sales တွေဘက်ကို ကျွန်တော်တို့ဘက်က marketing ဆင်းရသည်။ Sales တွေထဲက ကောင်မလေးတစ်ယောက်သည် တော်တော်လှသည် ။ ကြွေရုပ်လေးလိုပင် ။ ထိုကောင်မလေးသည် ကျွန်တော့်ကို တစ်ခါတစ်လေ အရိပ်အယောင်ပြတတ်သည်။ သို့သော် နှလုံးသားမှုပိုင်ရှင်က " မ " တစ်ယောက်တည်းသာ ။

" ကိုဇော်ဇော် "

Sale တွေကို စစ်ဆေးပြီး ရုံးချုပ်ကို ပြန်ဖို့ ကားပေါ်အတတ်။ ခေါ်သံကြားရသည် ။

" ဗျာ "

" သကြံ့နီးပြီနော် "

" ဟုတ်တယ်လေ "

" တို့ကို ရေမလောင်းချင်ဘူးလား "

ရုတ်တရက် ထိုကောင်မလေးမျက်နှာ ပန်းနုရောင်သန်းလာသည်။ ကျွန်တော်ဘာပြန်ပြောရမလဲမသိ ။ ရည်းစားရှိတယ် ပြောရအောင်လည်း မ ' က လူသိမခံချင် ။ ဘာပြန်ပြောရမလဲ စဉ်းစားနေတုန်း ထိုကောင်မလေး လှည့်ပြေးသည်။ ရှက်သည် ထင်ပါတယ်။ အတူပါလာတဲ့ ကိုသန်းက

" ဟာ ဇော်ဇော် မိုက်သကွာ ၊ မင်း စွံလှချည်လား "

" မဟုတ်ပါဘူးဗျာ "

" တွဲလိုက်လေ ၊ လှတယ်ကွ ၊ ဟဲဟဲ "

" ဟာ ခင်ဗျားကလည်း "

" မင်းကလည်း ကျားက သူ့ရှေ့က သမင် အလွတ်ပေးရိုး ရှိသလား "

စိတ်ထဲကြိတ်ရယ်မိသည် ။ ကျွန်တော်သည် ကျားတော့ ကျားပါ ။ သို့သော် မမရဲ့ ကျားပါ ။

" ဟာဗျာ "

" မင်း ဒီလိုနဲ့ လူပျိုကြီး ဖြစ်မယ် "

ပူညံပူညံလုပ်လွန်းအားကြီးသဖြင့်

" ကျွန်တော့်မှာ ကောင်မလေး ရှိတယ်ဗျ ! "

" ဟာ ငါတောင်မသိဘူး မင်းကွာ ၊ ဘယ်သူလဲ ပြော ပြော "

" မပြောဘူးဗျာ "

" ပြောလို့ "

" မင်းကွာ အချင်းချင်း ပြောလို့ "

" ပြောပါဆိုနေမှ "

" မင်းပြောမလား မပြောဘူးလား "

နားတော်တော်ညီးသည် ။

" Adm ဌာနကဗျာ "

သွားပြီ ။ တစ်ခုတော့ပေါက်ပြီ ။

---

" ဟေ့ရောင် ဇော်ဇော် မင်း အားလား "

အန်ကယ်ဂျွန်သည် အနောက်က ကျားလိုက်သလို ကျွန်တော့်ကို လာခေါ်သည်။ " မအားဘူး " ပြောလျှင်လည်း " မအားလည်း အားကွာ " ဆိုပြီး ဂုတ်က ဆွဲခေါ်သွားမှာ အသေအချာပင်။ အန်ကယ်ဂျွန် လို့ခေါ်သည်မှာ အသက်ကြီး၍မဟုတ်၊ ကျွန်တော်တို့ ဌာနမှူးဖြစ်သောကြောင့် လေးစားမှုနှင့် အန်ကယ် တပ်ခေါ်ခြင်း ဖြစ်သည်။ အန်ကယ်ဂျွန်သည် ဌာနအတွင်း ကျွန်တော်နဲ့ အရင်းနှီးဆုံး ဖြစ်သည် ။

" အားတော့အားတယ် ဒါမဲ့ မအားဘူးဗျ "

" ငါထိုင်စောင့်မယ်ကွာ မင်း မအားမချင်း "

" ဟာဗျာ ဘာကိစ္စမလို့လဲ "

" ဒီလိုကွာ ....... ဟာ ပြီးမှ ပြောမယ် "

အရေးတကြီး သေရေးရှင်ရေး ပုံစံဖြစ်နေသောကြောင့် ကျွန်တော်ပါ လန့်လာသည်။

" အားတယ် အားတယ် ပြော "

" ဒီမှာမပြောဘူးကွာ ။ လာ ၊ စားသောက်ဆိုင်သွား ပြောရအောင် "

" ကျွန်တော် ဒကာ မခံနိုင်ဘူးနော် "

" အေးပါ အေးပါ ။ ငါအကုန်ရှင်းပါ့မယ် လူသာ လိုက်ခဲ့ "

အန်ကယ်ဂျွန်သည် အကောင်းအရမ်းကြိုက်သလို ဝင်ငွေများသူလည်း ဖြစ်သည်။ ထို့ကြောင့် သူထိုင်သည့် စားသောက်ဆိုင် မှန်သမျှသည် ဈေးကြီးသည် ။ သို့သော် တိုင်ပင်စရာကိစ္စရှိတိုင်း လာလာ ခေါ်သဖြင့် နားပူပေမယ့် ဝမ်းမြောက်သည် ။ မှာစရာ ရှိတာတွေ မှာပြီးသည်နှင့်

" ပြောလေ အန်ကယ်ဂျွန် "

" ဟိုဟာကွာ ........... "

" ဟုတ် ပြော "

" ဒီလိုကွာ မင်းလေ ...... "

" ပြောပါဆို ဒုက္ခပဲဗျာ "

" မင်းလေ Adm ဌာနမှာ ကောင်မလေးရှိတယ်ဆို ....."

" ဟုတ်တယ်လေ "

" အဲ့တာကွာ Adm ဌာနမှာ ငါးယောက်လောက် ရှိတယ်လေ "

" သန္တာရယ် ၊ ဒေစီရယ် ၊ အယ်နီရယ်က ချောချော လေးတွေကွာ ။ ဒါမဲ့ သန္တာက မင်းနဲ့ အကြောမတည့်တော့ သန္တာက မင်းကောင်မလေး မဟုတ်ဘူးမလား "

" ကျွန်တော့်ကို သန်းခေါင်စာရင်း စစ်နေတာလား တည့်ပြောဗျာ "

" ဟိုဟာကွာ ...... "

" မဒေစီကို အန်ကယ်ဂျွန် ကြိတ်ကြွေနေတာမလား "

" အေး ဟမ် အဟွတ် အဟွတ် "

ရေသောက်နေချိန် ပြောချလိုက်သည်မို့ ရေသီးသွားတာ မဆန်းပါ။

" ကျွန်တော်ပြောမယ် စိတ်ခိုင်ခိုင်နဲ့ နားထောင်နော် "

" အေး ... အေးပါကွာ "

" ကျွန်တော့်ကောင်မလေးက မဒေစီ . . . . . မဟုတ်ဘူး ဗျ "

" အေးပေါ့ကွာ ငါက လက်နှေးတာကို မင်းပဲ . . . . ဟင် ဒေစီ မဟုတ်ဘူးလား "

" မဟုတ်ပါဘူးဗျာ ဒုက္ခပဲ "

" ဟဲဟဲ တော်သေးတယ် ။ ဇော်ဇော် မင်းကြိုက်တာစား ငါအကုန်ရှင်းမယ် "

" မဒေစီကို ကြိုက်ရင် ဖွင့်ပြောလေဗျာ "

" ငြင်းလိုက်ရင် ဘယ်လိုလုပ်မလဲ "

" လုပ်ရဲရင် ခံရဲရမှာပေါ့ဗျာ "

စားလို့သောက်လို့ ပြီးတာနှင့် ရုံးကို အပြန် ။

" ဟဲဟဲ ဒေစီမဟုတ်ဘူးဆိုတော့ အယ်နီမလား "

ကျွန်တော်မဖြေပါ ။ ပြုံးနေသည်။

## ( အခန်း - ၇ )

အယ်နီတို့ရုံးသည် သကြံ့န်နီးလာသည်နှင့်အမျှ ရုံးတွင်းသကြံ့န်စီစဉ် ပေးသည်။ သို့သော် သကြံ့န်အားလပ်ရက်တွင် အယ်နီသည် အိမ်မှာပဲ နေချင်သည် ။ အယ်နီ့လိုစိတ်နှင့် ဝန်ထမ်းတွေလည်း ရှိသောကြောင့် ဒါရိုက်တာကနေ ရုံးတွင်းခရီး စီစဉ်ပေးသည်။ သကြံ့န် မတိုင်ခင် ကျိုက်ထီးရိုးကို စားစရိတ်၊ သွားစရိတ် အပြီးအစီး ။ ဒေစီက သူသွားမည်မို့ အတင်းဆွဲခေါ်သည်။ ဇော်' ကိုလည်း အယ်နီ အကြောင်းကြားချင်ပေမဲ့ ဇော်သည် အလုပ်ခရီး ထွက်သွားသည်။ ဘယ်မြို့ရောက်နေလဲ သေချာမသိတော့ ဖုန်းဆက်လို့လည်း မရ။

( အဲ့ခေတ်တုန်းက ဖုန်းတစ်လုံး သိန်း ၃၀ မို့ ကိုယ်ပိုင်ဖုန်း မရှိသေးပါ )

---

" အယ်နီ လာလာ "

" ဟဲ့ ဒေစီ ငါတို့စီးရမယ့်ကားက ဟိုမှာလေ သူများတွေ တောင် ကားပေါ်တတ်ကုန်ပြီ "

" ဟာ နှင်ကလည်း ငါတို့ကဝန်ထမ်းတွေမလို့လား "

" အေးလေ "

" မဟုတ်ဘူးလေ ငါတို့က manager တွေလေ "

" ဘာကွာလဲဟ "

" ကွာတာပေါ့ လာ ငါတို့က တခြားကားစီးရမှာ "

---

" အယ်နီ ထ ဆင်းမယ် "

" ဟင် ဟဲ့ ဟဲ့ ကျိုက်ထီးရိုး တောင်ခြေ မရောက်သေးဘူး လေ ။ အခုမှ သထုံမလား ။ "

" ဟာ နင်ကလည်း ကားပြောင်းစီးရမှာ ထလို့ "

" ငါတို့အခုစီးနေတဲ့ ကားက ဘီးလည်းမပေါက်ဘူး ။ ကားလည်း မပျက်ဘူး ။ ဘာလို့ဆင်းရမှာလဲ "

သူငယ်ချင်းနှစ်ယောက် တစ်ယောက်က ထဖို့ထူလိုက်၊ တစ်ယောက်က ပြန်ထိုင်လိုက်နဲ့ မပြီးတော့ပေ ။ ထိုစဉ် Assistant manager ဌာနမှူး မနန္ဒာက ကြားဖြတ်ပြီး

" အယ်နီ ထ ၊ တို့လည်းဆင်းမှာ "

" မနန္ဒာကလည်း ဒီကားက ကောင်းတဲ့ဟာ "

" ဟင်း ဟင်း ( ကြိတ်ရယ်သံ ) တို့မောင်က ဒီမွန်ပြည်နယ်မှာ ထောက်လှမ်းရေးမှူးလေ ။ သူကိုယ်တိုင် သူ့ကားနဲ့ လာကြိုတာကွဲ့၊ မငြင်းကောင်းဘူး "

ငြင်းမရလေတော့ အယ်နီလည်း ကားပြောင်းစီးရသည် ။ မနန္ဒာ မောင်သည် မျက်မှန်အမည်းကြီးနဲ့ ဂျိမ်းစဘွန်း စတိုင်ဖမ်းသည်။ အယ်နီကတော့ ရယ်ချင်တာ ကိုယ့်နှုတ်ခမ်းကို ကိုက်ရင်း အောင့်ထားရသည် ။

" အို ဖြေးဖြေးမောင်းပါ "

ဒေစီ မနေနိုင်မထိုင်နိုင်ပြောလေပြီ။ ဟုတ်သည် ။ မနန္ဒာ မောင်သည် ကားကို အရမ်းမောင်းသည်။ မီးနီတွေလည်း ဖြတ်မောင်းသည်။ ကားပိတ်နေရင်လည်း အရှိန်ပိုတင် ဖြတ်မောင်းသည်။

" တိုက်မိကုန်ပါမယ် ဖြေးဖြေးမောင်းပါ "

" ဖယ်ရမှာ သူတို့အလုပ်လေ ။ ဒါယောက်လမ်းရေးမှူး ကား။ မဖယ်ဘူးမလား ၊ ဝင်တိုက်ရုံပဲပေါ့ ။ အမှုဖွင့်ဖို့ လာရင်လည်း ကျွန်တော့်စခန်းစီပဲ လာရမှာလေ။ အေးဆေး ပေါ့ "

အယ်နီ့စိတ်ထဲတွင် တစ်မျိုးဖြစ်သွားသည်။ မြို့ဝင်ကြေး ၊ ဂိတ်ဝင်ကြေး ပေးရသည့်နေရာများတွင်လည်း ကားမီး ကြိုတောက်ထားသည် ။ ဘယ်သူမှမတား ။ ဘာမှပေးစရာမလိုခဲ့ပေ ။

" အေး ကျိုက်ထီးရိုးတောင်ခြေရောက်တော့မယ် ။ တောင်ပေါ်တက်မယ့် ကားတိုင်းကို ရပ်ခိုင်းထား။ တစ်စီးမှ မတက်စေနဲ့။ ဒီမှာ ယောက်လှမ်းရေးမှုး အစ်မပါတယ်။ ခေါင်းခန်းကိုလည်း ငါးယောက်စာ နေရာဖယ်ခိုင်းထား။ နေရာဝယ်ပြီးသားသူရှိရင်လည်း ဆင်းခိုင်းလိုက်။ ဒါပဲ "

ဟုတ်သည် ။ အယ်နီတို့လို မန်နေဂျာတွေတောင် မကိုင်နိုင်သည့် အိတ်ဆောင်ဖုန်းနှင့် ကျိုက်ထီးရိုး တောင်ခြေယာဉ်စခန်းကို ထိုလူ လှမ်းဆက်ခြင်းဖြစ်သည်။

---

တောင်ခြေ ရောက်ပြီ။ အယ်နီ ရှက်လွန်းသောကြောင့် ထိုနေရာမှာပင် အငွေ့ပျံပျောက်ကွယ်သွားချင်သည်။ အဘယ်ကြောင့် ဆိုသော် တောင်ပေါ်တက်မည့် ကားတွေကို ရပ်ခိုင်းထားပြီး ကားပေါ်က ခရီးသည်တွေဟာ နေပူထဲ ဆင်းပြီး ထိုင်စောင့်နေရလို့ ဖြစ်သည် ။ ကားက ခေါင်းခန်းတလွဲ နောက်ခန်းအမိုးမပါ ။ နွေနေသည် အပူပြင်းသည် ..။ အယ်နီတို့စီးလာတဲ့ ကားကို

ထိုခရီးသည်တွေ လှမ်းကြည့်နေလို့ အယ်နီ ကားပေါ်က ဆင်းတာ တောင် ခြေလှမ်းတွေယိုင်နဲ့လျက်။ မနန္ဒာက

" အယ်နီ ဆင်းလေ ဒီလိုပဲပေါ့ ပါဝါရှိရင် ပိုကောင်းစား တယ်လေ "

အယ်နီ ဆွံ့အခဲ့သည်။ ကျိုက်ထီးရိုး တောင်ပေါ် ရောက်သည်အထိ စိတ်တို့က လွင့်ပျံ့ဆဲ . . .။

---

" အယ်နီရေ အယ်နီ "

ညဘက်ကြီး တည်းခိုခန်း တံခါးသို့ လာခေါက်နေသောကြောင့် လန့်မိသည် ။

" အယ်နီရေ အိပ်ပြီလား။ ငါ ဒေစီပါဟ ။ ရုံးက ဖုန်းလာလို့ နင့်စီ "

" လာပြီ ခဏ "

ဟိုတယ်က ရုံးလက်အောက်ဖြစ်လို့ ဟိုတယ်ဖုန်းနှင့် ရုံးဖုန်းသည် အဆက်အသွယ်ပြုလို့ရသည်။

" ဟယ်လို "

" အယ်နီ ငါပါ အန်ကန်ချွန် "

" ဟယ် အန်ကယ်ချွန် ဘာကိစ္စရှိလို့လဲ "

" ဇော်ဇော် အကြောင်းပြောမလို့ "

" ပြော ပြော "

" ဇော်ဇော်လေ အဲ့ကောင် ဒီနေ့ နေ့လည် 12 လောက်က အလုပ်ခရီးကနေရုံးကိုပြန်လာတယ် ။ ငါ ကလည်း လျှာရှည်ပြီး မင်းအယ်နီလေး ခရီးသွားတယ် သွားပြောမိတာ ။ သူ့အိမ် ချက်ချင်းပြန် ၊ အဝတ်အစား တွေကောက်ထည့်ပြီး မွန်ကို အလုပ်ခရီးရှိလားဆိုပြီး အတင်း ဇွတ်ထွက်သွားတယ်ဟေ "

" အယ့်တော် "

" နင့်နောက် လိုက်လာတာဟေ ။ ငါ့ကောင်ကလည်း မနိုင်ဘူး "

" အန်ကန်ရှန်နော် ၊ တမင် ဆေးထိုးလိုက်တာမလား ဇော်ဇော်ကို "

" မဟုတ်ပါဘူးဟာ ၊ အဲ့တာလမ်းပြောတာ ။ လမ်းမှာ ဆုံရင် ခေါ်လိုက်ပါဦး "

" စိတ်ချပါ ကျွန်မကောင်လေးပဲဟာကို ခေါ်ရမှာပေါ့ "

" တော်ပြီ ငါဆက်မပြောတော့ဘူး ဒါပဲ "

တစ်နေကုန် စိတ်ပန်းညှိုးနေသည်ကို ဖုန်းတစ်ကောလ်က ပြန်လည် လန်းဆန်းစေသတဲ့လား။ အချစ်က အေးမြလိုက်တာ လောကကြီး ရယ်...။

---

## ( အခန်း - ၈ )

ရုံးကို ပြန်ရောက်ရောက်ချင်း အန်ကယ်ဂျွန်က

" တစ်စုံတစ်ယောက်ရဲ့ ချစ်ရသူတော့ ရုံးက ခရီးနဲ့ ပါသွားတယ် ဟေ့ ဟေ့ " ဆိုပြီး စလေရဲ့ . . ။

ချစ်ခင်စ တစ်တီတူး အချစ်ငှက်လေးတွေပီပီ ကျွန်တော်လည်း မ ' နောက် မဆိုင်းမတွလိုက်ဖို့ အိမ်ကို အမြန်နှုန်းနဲ့ ပန်းကန်လုံးစီးပြီး အဝတ်အစား၊ လိုအပ်တာမှန်သမျှ ခရီးဆောင်အိတ်ထဲ ပစ်ထည့်ခဲ့ပါသည်။

" ဟဲ့ သား အခုမှပြန်ရောက်တာလေ။ ဘယ်နှယ့် ခရီးဆောင်အိတ်ပြင်နေရတာတုန်း "

" ဟိုဟာ ကျိုက်ထီးရိုးကို အခုချက်ချင်းသွားရမှာမို့ "

" ဟယ် ငါ့သား ကျိုက်ထီးရိုးလား "

" ဟုတ်တယ် ။ အမေဘာမှာမလို့လဲ ။ ကတွက်ယို ဝယ်ခဲ့မယ်လေ "

" မင်း မသွားနဲ့ "

" ဗျာ "

" ကျိုက်ထီးရိုးကို မသွားနဲ့လို့ပြောနေတာ ၊ မနေ့က အမေ ဗေဒင်မေးလာတယ်။ ဗေဒင်ဆရာကလည်း တိုက်တိုက်ဆိုင်ဆိုင် အိမ်ကသားက ကျိုက်ထီးရိုးသွားဖို့ အကြောင်းဖန်လာရင် လုံးဝမလွှတ်ပါနဲ့ ဟောလိုက်တယ် "

" ဟာ အမေရယ် သွားပါရစေ ။ ယတြာချေလိုက်လေ "

" မသွားရဘူး ။ မင်းက သိုက်အဆက်တဲ့ ။ မင်းအခု ကျိုက်ထီးရိုးသွားရင် သိုက်ကလူတွေက ပြန်ခေါ်မယ်လို့ တပ်အပ် ဟောလိုက်တာ "

ကျွန်တော်တင်းလာသည် ။ ဗေဒင်ဆရာက ဘာတွေဟောလိုက် ပြန်ပြီလဲမသိ။

" အမေ မပူနဲ့။ သိုက်က ကျွန်တော့်ကိုပြန်ခေါ်ရင်လေ သိုက်ကို ပြုဿနာရှာမယ်။ ဟမ် အခုလူ့ဘဝမှာတော့

ရွှေမန်ကျည်းသီးတောင့်တွေ ဘာတွေနဲ့ မကူညီဘဲ ခက်ခက်ခဲခဲ အလုပ်လုပ်ခိုင်းပြီး ဘာသိုက်ပြန်ခေါ်မှာ "

" နင်ဟာလေ ၊ ဒါတွေက မယုံလို့မရဘူး "

" ချစ်ခြင်းကိုတော့ယုံတယ် "

ဟုစိတ်ထဲကပြန်ပြောရင်း ဇွတ်တရွတ် အိမ်ကထွက်လာခဲ့လိုက်သည်။

---

ကျိုက်ထီးရိုးကို လိုက်သည်။ အသည်းအသန်လိုက်သည်။ ရုပ်ရှင်ကားထဲကလို လူဆိုးကို လိုက်ဖမ်းသည်မဟုတ် ။ အချစ်ကို လိုက်တွေ့ခြင်းဖြစ်သည်။ ရုပ်ရှင်ထဲကလို လူဆိုးလိုက်ဖမ်းကြေးဆို မ ' သည် ကျွန်တော့် နှလုံးသားကို ပြန်ပေးဆွဲသွားသည့် လူဆိုးမလေး ဖြစ်ပေလိမ့်သည်။ ခဏနားနေတုန်းပင် ဟိုဘက် ကားလမ်းကြောကနေ မ ' တို့ ရုံးခရီးသွားကားတွေ ဖြတ်သွားသည်။

" ဟာ ကပ်သီးလေးလွဲပြီ "

ကားပေါ်ချက်ချင်းတက်သည်။ စက်ကောက်နှိုးသည် ။ ပါလာသည့် ပါတနာ ဝသန်က

" ဟျောင့် ဇော်ဇော် ဘယ်သွားမလို့လဲ "

" ရုံးချုပ်ကိုပြန်သွားမလို့ဗျ "

" ဟင် ၊ ဟ နေဦး နေဦး မရဘူးလေ ။ အလုပ်ကိစ္စ ပြီးအောင်လုပ်ရမှာလေ "

" မသိဘူး ပြန်မယ်ဗျာ "

ဆိုပြီး စောနက ခရီးသွားကားတန်းနောက်လိုက်ဖို့ပြင်သည်။ ဝသန် က ကားရှေ့လှဲချသည်။

" မင်း ပြန်ချင်တယ်ဆို ငါ့သာတက်ကြိတ်သွားကွာ ။ အလုပ် မပြီးဘဲ ပြန်လို့ အဆူတော့မခံနိုင်ဘူးဟေ "

" ဇော်ဇော် ချကြမလား "

" လုပ်ဗျာ "

လူချင်း ချကြသည်မဟုတ်။ ယမကာ မှီဝဲခြင်းဖြစ်သည်။ မ ' ကို မတွေ့လိုက်ရသဖြင့် ညစ်တွန်းတွန်းပြီး သောက်သည် ။ အဲ့ကြားထဲ နားထဲ အမေ့စကား ပြန်ကြားယောင်လာသည် သိုက်တဲ့ ။

" ကိုဝသန် သိုက်ကိုယုံလား "

" ဟင် ငှက်သိုက်လား "

သုံးခွက်လောက်သောက်ပြီး အသံလေးနေသော ကိုဝသန်ကို ရယ်ချင်လာသည်။

" မဟုတ်ဘူးလေ သိုက် ။ သိုက်နန်းရှင်တို့ ဘာတို့ အဲ့လိုဗျာ "

" မယုံပါဘူး ၊ ဟဲဟဲ သိုက်နန်းရှင် ချောချောလေးတွေ ကိုတော့ ယုံတယ် "

" ကျွန်တော့်ကို သိုက်ကလာတယ်လို့ ဘယ်ကဗေဒင်ဆရာ ဟောလိုက်လဲမသိပါဘူးဟောလိုက်လဲမသိပါဘူးဗျာ။ "

" မင်းက သိုက်က ။ ဟားဟား မင်းသာသိုက်ကဆို သိုက်နန်းရှင် ချောချောလေးတွေနဲ့ မိတ်ဆက်ပေးစမ်းပါကွာ "

" အေးဗျာ ပြန်ခေါ်မယ်ဘာညာနဲ့ ဟောလိုက်တယ်ဆိုလားပဲ "

" ဟျောင့် မင်းသိုက်ကိုပြန်မယ်ဆို ငါ့ပါခေါ်ကွာ ။ တူတူပြဿနာ မီးထွန်းရှာရအောင် "

" ဟုတ်ပြီဗျာ cheer "

ထိုညတွင် ယမကာခွက်တိုက်သံများသာ ဖုံးလွှမ်းခဲ့သည်။ ကျွန်တော်သည်လည်း အိမ်မက်ထဲတွင် သိုက်နန်းရှင်မလေးမဟုတ်တဲ့ နှလုံးသားပိုင်ရှင်လေး မ ' ကိုတွေ့သည် ။

---

တစ်ပတ်လောက်ကြာပြီးသည့်အချိန်တွင် ကျွန်တော်သည်လည်း ရုံးကိုပြန်ရောက်ခဲ့ပြီ။ မ ' သည်လည်း ပိတ်ရက်မှာ ဆုံနေကြ ဘုရားကို

လာဖို့ချိန်းသည် ။ သို့သော်ဆုံမည့်နေ့တွင် မ ' သည် ဘုရားအနီးက လက်ဖက်ရည်ဆိုင်တွင်စောင့်သည်။ ကျွန်တော်လည်း မြို့သိပ်ထား သမျှ အလွမ်းတွေ မသိမ်းနိုင်တော့ဘဲ ပြေးဖက်မိသည် ။

" အို လူတွေရှိတယ်လေ "

" ရှိရှိကွာ။ သမီးရည်းစားပဲ ဖက်တဲ့ဟာကို "

" လွှတ် "

" မလွှတ်ပေါင်ဗျာ "

" လွှတ်မလား မလွှတ်ဘူးလား "

" မလွှတ်ဘူးဗျာ "

ဗိုက်ကို ဆွဲဆိတ်ခြင်းခံလိုက်ရသည် ။

" အားလားလား လူကသာသေးတာ တော်တော် စွာသဗျ "

" အဲ့တာကြောင့် လွှတ်ပါဆို "

သကြ့်န်ကျဖို့ သိပ်မလိုတော့ပါ ။ Company မှာရှိတဲ့ လူပျို၊ လူလွတ်၊လူငယ်၊လူရွယ်တွေက ထုံးစံအတိုင်း လုံမပျို၊ မိန်းမငယ်တို့ကို ရေပက်ဖို့ ချောင်းနေကြတာပေါ့ဗျာ ။ အဲ့ထဲကမှ အချောအလှ လေးတွေများတဲ့ မ ' တို့ ဌာနက မိန်းကလေးတွေကို ရေဘယ်သူ ပက်နိုင်မလဲဆိုပြီး လောင်းကြေး ထပ်သူကထပ်နဲ့..။မ ' ကတော့ သူ့ကို ရေပက်ရဲရင် ပက်ကြည့်လိုက်စမ်းပါ ဆိုပြီး ရာဇသံထုတ်ထား လေရဲ့...။

သကြ့်န်မကျခင် ရက်ပိုင်းလောက်အလိုတွင် မ ' သည် ဗေဒင် သွားမေးမည်ကို လိုက်ရန်အဖော်ခေါ်သည် ။

" မ ' က ဗေဒင်တွေ ယတြာတွေ ယုံလို့လား "

" မယုံပါဘူး ဒေစီက သူ့အစားသွားမေးပေးပါဆိုလို့ "

" မဒေစီက ဘာတွေမေးခိုင်းတာတုန်း "

" အချစ်ရေးပေါ့ရှင် ဒေစီကချစ်သူရနေပြီလေ ဇော် ' မသိဘူးလား "

" ဗျာ မဒေစီက?။ ဟာ အန်ကယ်ဂျွန်တော့ ကြေကွဲနေပြီထင်တယ် "

မ " ရယ်သည်။

" ဟယ် ဇော် ' မသိသေးဘူးလား ။ အန်ကယ်ဂျွန်နဲ့ လေကွာ "

" ဟာ ကျွန်တော်မသိဘူး ။ အန်ကယ်ဂျွန်က မပြောဘူး ဗျ "

" ထားဦး ။ လာ အခုလိုက်ခဲ့ ပေဒင်သွားမေးမယ် နောက်ကျရင် တန်းစီနေရဦးမယ် "

ပေဒင်ခန်းထဲသို့ ရောက်သောအခါ ဆေးဖယောင်းတိုင်လိုလို ဘာလိုလို ဖယောင်းတိုင်အကြီးကြီးတွေ တွေ့ရသည် ။ မ ' ကတော့ မဒေစီ မေးခိုင်းလိုက်သည့် မေးခွန်းတွေ ပေဒင်ဆရာမကို မေးနေပေမယ့် ဘေးဘီလိုက်ကြည့် ရှုးစမ်းနေသောကြောင့် ကျွန်တော့်နားထဲ ဝင်တစ်ချက် ၊ မဝင်တစ်ချက်။ အင်းကွက်လိုလို ဘာလိုလိုတွေပေါ်က စာလုံး ကောက်ကောက်ကွေးကွေးလေးတွေက ကျွန်တော့်ကို ကပြနေသည်ဟု ကြံ့ကြံ့ဖန်ဖန်တွေးမိသည် ။ မ '

မေးလို့ပြီးပြီထင်သည် ။ ကျွန်တော် ထပြန်ဖို့ပြင်သည် ။ သို့သော် ထမရ ။ ဘာမှဝင်ပူးခြင်းမဟုတ်ပါ ။ မ ' က နေဦး ဟုပြောကာ လက်ကိုဆွဲထားသောကြောင့်ဖြစ်သည် ။

" ဒေစီက အယ်နီတို့ပါ မေးခဲ့ဆိုပြီး ဗေဒင်ဆရာမကို လှမ်းပြောထားတယ် "

မထူးတော့ ။ မီးစင်ကြည့်က ရတော့မည်။ ဗေဒင်ဆရာမက ဝါးစားမလို ကျွန်တော့်ကို ခြေဆုံးခေါင်းဆုံးကြည့်သည်။

" မောင်ရင်က ရာထူးအကြီးစားပဲ "

" ဗျာ.... ဗျာ ဘာအကြီးစား "

" အိမ်း ကြည့်ရတာ ရာထူးတတ်ကိန်းရှိတယ်။ အထက် လူကြီးတွေရဲ့မ " စ " ခြင်းကိုခံရနိုင်တယ် "

" မောင်ရင်က သိပ်ကောင်းတယ် "

" ဗျာ.. မကောင်း အဲလေ ဘာကောင်းတာလဲဗျ "

" ကံပြောတာကွဲ၊ နိုင်ငံခြားထွက်ကိန်းလည်းမြင်တယ် ၊ ဗိုလ်ကြီး အဆင့်လည်း တက်နိုင်တယ် "

" အာ ဟုတ်ကဲ့ "

" ဒါပေမဲ့.... "

" ဟုတ် ဘာများဖြစ်လို့လဲဗျ "

" အဖျက်အမှောင့်လေးတွေတော့ရှိတယ် "

မ ' ကို လှမ်းကြည့်တော့ ခေါင်းငုံ့ပြီး တခွိခွိ ရယ်နေသည် ။ အခု ဒီဗေဒင်ဆရာမက ကျွန်တော့်ကို ညာစားနေခြင်းဖြစ်သည် ။ ကျွန်တော်ကလည်း ခပ်ရွှဲရွှဲနဲ့ ဟုတ်နေပြီ ..။

" ဟာ အဖျက်အမှောင့်တွေကို ရှောင်ဖို့ နည်းမရှိဘူးလား ဗျာ "

" ရှိတာပေါ့ မောင်ရင်ရယ် "

စောနက လူပါသတ်လို့ရတဲ့ ဆေးဖယောင်းတိုင်တွေကိုညွှန်ပြသည် ။

" ငါးတိုင်သာ လွန်းလိုက် မောင်ရင်။ အကုန်ရှောင်ဖယ် စေရမည် "

" တစ်တိုင်ဘယ်လောက်လဲဗျ "

" 5000 "

အားပါးပါး ။ မွဲကိန်း ။တစ်လရတဲ့လစာကမှ ငါးသောင်း ။

" တခြားနည်း မရှိဘူးလားဗျ "

" မရှိဘူး ဒီဆေးဖယောင်းတိုင်ကပဲ မောင်ရင်ကို ကယ်တင်နိုင်တယ် "

" ဒါဆိုဗျာ ကျွန်တော့်ကိုလေ ရာထူးကျစေမယ့် ယတြာလေး ပြောင်းပေးမလား "

" ဟုတ်ပြီ..... ဟင် ဟမ် "

" ဒီလိုဗျာ အဖျက်အမှောင့်ရှိမယ့်တူတူ နှစ်ဆဖြစ်အောင် ခေတ်ဆီလောင်းချင်လို့ "

ဗေဒင်ဆရာမသည် သူညာချနေမှန်း ကျွန်တော်သိတာကို ရိပ်မိသဖြင့် မျက်နှာကြီးနီလာသည်။

" ရတယ်မလားဗျ အဲ့လို "

မ ' သည် ဘေးကနေ ပေါင်တွင်းကြောတွေကို အသေဆိတ်ဆွဲနေတော့သည်။

" ဟိုဟာလေ ဆွဲဆိတ် အဲလေ ပုရွက်ဆိတ်ကိုက်ရင် နာတာပျောက်အောင်ကော ယတြာလေးမရှိဘူးလား ။ ကျွန်တော် အခုချက်ချင်းလိုနေလို့ "

" ဆရာမ ကျွန်မတို့သွားတော့မယ်နော် ဟီး "

မ ' သည် ကျွန်တော့်ကို အတင်းဆွဲခေါ်၍ ထွက်လာလေသည်။

" ရှင် လူရွတ်ပဲ "

" မ ' ကလည်း ကျွန်တော်မှမမှားတာ ဟိုက ညာချနေတာကို "

" မမှားလည်း ငြိမ်ပြီး ထွက်လာခဲ့လေ။ ဘာလဲ ။ ယတြာတွေတောင်းပြီးရစ်နေတယ်။ ပြီးကျ ဝယ်တာလဲမဟုတ် ။ "

" အိုဗျာ သူ့ယတြာတွေက စွမ်းမှမစွမ်းတာ "

" ဘယ်ယတြာကရော စွမ်းလဲ "

" စွမ်းတဲ့ ယတြာတစ်ခုတော့ ကျွန်တော်သိတယ် "

" ဘာလဲ "

" နှုတ်ခမ်းဆူပြီး စိတ်ဆိုးနေတဲ့ ကောင်မလေးကို စိတ်မဆိုးအောင် လုပ်မယ့် ယတြာ "

" ပလီပလာတွေပြောပြန်ပြီ "

" မယုံရင် လက်တွေ့ပြမယ်ဗျာ "

ခါးသိမ်သိမ်လေးကို ဆွဲကာ သကြိုန်ရေအစား အနမ်း နုနုလေးတွေ လက်ဆောင်ပေးလိုက်သည် ။

" တွေ့ပြီလား ဘယ်လိုလဲ စွမ်းတယ်မလား "

" လူလည် "

" မဟုတ်ပါဘူး ကျွန်တော်ဗေဒင်ဆရာပါ ၊ မ ' ရဲ့ ကံဆိုးမှုတွေကို တိုက်ဖျက်ပေးမယ့် ဗေဒင်ဆရာလေးပါ "

အချစ်လမ်းကြောင်းမှာ ကျွန်းခံ၊ မခံ ကျွန်တော်မသိချင်ပါ။ မ ' လက်လေးကိုသာ အမြဲကိုင်ပြီး လျှောက်သွားရရင် အချစ်လမ်းကြောင်းက ဖြောင့်ဖြူးနေမှာ အမှန်ပင်။

---

( အခန်း - ၉ )

အယ်နီ့ကို ဇော် ' သကြိုန်ရေ မလောင်းခဲ့ရပါ။ အယ်နီက ရေလောင်းခံရမှာစိုးလို့ ရှောင်ပြေးနေခြင်းလည်းမဟုတ်..။ ဇော် ' က ရေမလောင်းရဲတာလည်း မဟုတ်...။ သကြိုန်ရက်အတွင်း အယ်နီသည် အယ်နီ့ညီမအငယ်ဆုံးလေးနှင့် အတူနေသောကြောင့်ဖြစ်သည်။

" ဟယ်လို "

" ချစ်သူမျက်နှာကို လေးရက်လောက် မမြင်ရသဖြင့် ကောင်လေးတစ်ယောက် အချစ်ကိုမာ ဝင်နေပါကြောင်း "

" ဟယ် စပြီ တော်ကီတွေ "

" ဟီးဟီး မ ' ရယ် လွမ်းတယ်ဗျာ "

" မနက်ဖြန် တွေ့ရမှာပဲကို "

" မြောက်ဘက်မုခ်ပဲမလား မ ' ရဲ့ "

" အင်း ဒါပေါ့ "

" ဒါနဲ့ ခယ်မလေးရော ပြန်သွားပြီလား "

" အင်း ပြန်သွားလို့ အယ်နီ ဖုန်းလှမ်းဆက်တာပေါ့။ အယ်နီ ဖုန်းချလိုက်ပြီနော် မနက်ဖြန်မှ တွေ့မယ် "

" ဟာ နေဦးလေဗျာ "

" အယ် ပြော ပြော "

" ချစ်တယ်နော် "

---

ထုံးစံအတိုင်း ဆုံနေကြ ဘုရားမြောက်ဘက်မုခ်ဦးတွင် စောင့်သည်။

" ဇော် ' breakfast အရင်သွားစားရအောင်လေ။ ပြီးမှ ဘုရားပြန်လာဖူးရအောင် "

" ဟုတ်ပြီဗျာ "

အယ်နီသည် Dim Sum အလွန်ကြိုက်သည် ။ စားသောက်ဆိုင်တစ်ခုခုထိုင်တိုင်း ဇော်သည် အယ်နီကြိုက်တတ်သည်ကိုပဲ ရွေးမှာသည်။

" ဇော် ' စားလေ "

" မ ' စားနေတာမြင်ရရင် ဗိုက်ဝနေပါပြီ "

" အပိုကလုပ်ပြီ ။ စားမှာဖြင့်စားပါကွာ "

" ဒါနဲ့ မ ' ကျွန်တော်ပြောစရာရှိလို့ "

" ပြောလေ "

" ကျွန်တော်ကလေ အချမ်းသာကြီးတော့ မဟုတ်ပေမဲ့ ဘဲဥ တစ်လုံးရရင် တစ်ခြမ်းကျွေးမှာပါ မ ' ကို "

" ဟယ့်တော် ဘယ်နှယ့် ဘဲဥ ပါလာတာတုန်း "

တစ်ခါတစ်လေ ဇော် ' သည် ကလေးဆန်လွန်းသည် ။ အခုလည်းကြည့် ဘဲဥတွေပါ ဥပမာပေးနေပြန်ပြီ ။

" ကျွန်တော့်ကို အတည်တွဲမှာလား ဟင် "

အယ်နီ ဘာမှပြန်မဖြေခဲ့ပါ ။ ပြုံး၍သာနေခဲ့သည်။

---

Breakfast စားပြီးတော့ ဘုရားပေါ် ပြန်သွားသည် ။ ဘုရားရှိခိုးသည် ...။ နှစ်ယောက်လုံးရဲ့ နေ့နံထောင့်တွေမှာ ရေသပ္ပာယ်သည် ။ ထို့နောက် လက်ချင်းတွဲကာ ဘုရားတစ်ပတ်ပတ်လျှောက်သည် ။

" မ ' အရှေ့မှာ ရှုံးက ...... "

" ဟယ်၊ ဂျူ... ဂျူလီမလား "

ဟုတ်သည် ။ အယ်နီတို့ဌာနက ဂျူလီဖြစ်သည် ။ ဂျူလီသည် ပါးစပ်မလုံပါ ။ အခုချိန် ပြန်လှည့်ပြေးရအောင်လည်း မမှီတော့ပါ ။ ဂျူလီလည်း အယ်နီတို့ကိုမြင်သည် ။ သို့သော် အယ်နီတို့ထက်သူက ရှက်နေပုံရသည် ။ ခေါင်းငုံ့ပြီး အယ်နီတို့ကို မမြင်သလို

ဘေးကနေ ဖြုတ်လျှောက်သည်။ ဇော်က ဂျူလီ လက်ကို လှမ်းဆွဲထားသည် ။

" မဂျူလီ "

ဂျူလီက ဇော် ' လက်ကို ဖြုတ်ချသည်..။ ဘေးကလူ ကြည့်လျှင်တော့ သုံးပွင့်ဆိုင်လိုလိုနဲ့ ရယ်ရခက် ငိုရခက် ..။

" ဂျူလီ အယ်နီတို့အကြောင်း ရုံးမှာ တခွန်းမှ မဟနဲ့နော် "

" ဟုတ်ကဲ့ မမ "

---

ပိတ်ရက်တွေကုန်ဆုံးသဖြင့် ရုံးပြန်တတ်၊ အလုပ်လုပ်ရသည်..။ အခုဆိုရင် ဒေစီ ၊ အန်ကယ်ဂျွန် နှင့် ဂျူလီ တို့သည် အယ်နီတို့ရဲ့ relationship အကြောင်းသိထားကြသူများဖြစ်သည် ..။ အဲ့ထဲကမှ ဂျူလီသည် အဆိုးဆုံးဖြစ်သည်..။ အားနေ အယ်နီကို

လာလာ စသည်။ ရုံးထဲမှာ သတင်းထွက်ရင် သေပြီနော်လို့ ခြောက်ထားရသည်။

" မမအယ်နီ မမအယ်နီ "

အခုလည်းကြည့် ။ ဝရန်းသုံးကားနဲ့ ပြေးလာပြန်ပြီ။

" အနောက်က ကျားလိုက်လာလို့လား ဒီတစ်ခါကော ဘာတုန်း ချူလီ "

" ကိုဇော်ဇော်လေ အဟွတ် "

" အမောဖြေဦး ဘာဖြစ်လာတာလဲ "

" ကိုဇော်ဇော်လေ မန်နေဂျာတစ်ယောက်နဲ့ စကားတွေများပြီး ပြဿနာတတ်နေတာ အခု ပွက်လောရိုက်နေတာ မမအယ်နီပဲ မသိတာ "

" ဘယ်သူမှားလဲ "

" ဟင် "

" ဘယ်သူ လွန်တာလဲမေးတာ "

" ဟို. . . ဟိုဘက်က မန်နေဂျာ "

" မအယ်နီ ကိုဇော်ဇော်ကို သွားမတားဘူးလား "

" သူမှ မလွန်တာ ၊ အယ်နီက ဘာလို့တားရမတုန်း ။ ပြောပစေ "

" ဟယ် ဒီအတွဲ လိုက်လည်းလိုက်တယ် "

" ဂျူလီ စကားဆင်ခြင် ။ ဒါရုံးမှာနော် "

" ဟုတ်ကဲ့ " ဆိုပြီး လျှာထုတ်ပြကာပြေးသည် ။ ဂျူလီက ကလေးဆန်ချင်လည်း ဆန်ချင်စရာ ။ အယ်နီတို့ဌာနမှာ သူ အငယ်ဆုံးကို . . .။ ဒီလိုနဲ့ မအယ်နီ နှင့် ကိုဇော်ဇော်တို့သည် 1 Year anniversary အထိ အချစ်တွေကိုသာ ထွေးပွေ့ရင်း လက်တွဲမဖြုတ်ခဲ့ကြပေ. .။

---

( အခန်း - ၁၀ )

မအယ်နီနှင့် ကျွန်တော် တွဲတာ တစ်နှစ်ပြည့်ခဲ့ပြီ..။ 1 year anniversary ဆိုပြီး ထူးထူးခြားခြား နှစ်ယောက်လုံး ဘာမှ မကျင်းပခဲ့ပါ...။

ကျွန်တော်သည် ရည်းစားများခဲ့ပါသည်။ ဒီလိုကြားလို့ လူရှုပ်လို့ ထင်ကြမှာပါပဲ ။ အမှန်တကယ်ပြောရရင် ယောကျ်ားလေး တစ်ယောက်က မိန်းကလေးတစ်ယောက်ကို ချစ်ရေးဆိုဖို့ဆိုတာ တအား ခက်ခဲပါတယ် ...။ သူမ ဘာကြိုက်လဲ ၊ ဘယ်နေရာတွေ သွားလဲ စသဖြင့် ချစ်မိပြီဆိုကတည်းက ချစ်ရုံနဲ့မပြီးဘူးလေ...။ ခံယူချက်တွေ ၊ အကြိုက်တွေစသဖြင့် ညှိယူရတယ်..။ အချိန်တွေ ကြာလာတော့ မိန်းမတောင် မယူတော့ဘူးဆိုပြီး ဆုံးဖြတ်ထား တာပါ..။ အဲ့လိုအချိန်မှ မအယ်နီ နဲ့ တွေ့ခဲ့ရသည်...။ မအယ်နီ သည် တွေ့ဖူးသမျှကောင်မလေးတွေထက် ရိုးသားသည် ။ စိတ်ရင်း မှန်သည်။ စိတ်စေတနာကောင်းသည်..။ ထိုအချက်တွေကြောင့် လည်း အချစ်အောက် ထပ်ဒူးထောက်ခဲ့ရသည် ...။ မအယ်နီလို ကောင်မလေးနှင့် တွေ့ပြီး အချစ်ကို နှစ်ဦးနှစ်ဖက် လက်ဝယ်ပိုက် နေရတာက ကျွန်တော့်အတွက်တော့ ဆုလာဒ်တစ်ခုပါပဲ ....။

မအယ်နီ နှင့် ကျွန်တော် တွဲပြီး သုံးလအကြာကတည်းက ကျွန်တော်သည် အိမ်ကို မအယ်နီအကြောင်း အလုံးစုံ အိတ်သွန်ဖာမှောက် ဖွင့်ပြောပြီး ဖြစ်သည် ။ မအယ်နီကလည်း အိမ်ကို ပစ္စည်း၊ အစားအသောက်တွေ ကို လူကြုံနှင့်အမြဲပို့သည် ..။

" မ ' ကလည်း အဲ့လိုပို့ဖို့မလိုပါဘူး "

" အယ်နီက တစ်ယောက်တည်းနေတာလေ ။ ရုံးက အပိုပစ္စည်းတွေရော၊ bonus တွေရောက မောင်နှမတွေကို ပတ်ပေးလည်းကျန်နေတာ ၊ ကိုယ်ချစ်ရသူရဲ့ မိသားစုကို မပေးလို့ ဘယ်သူ့ပေးရမတုန်း "

လောကကြီးကိုသာ ပြောပြလိုက်ချင်တယ်။ ကျွန်တော့်ကောင်မလေးက ဘယ်လောက်ချစ်ဖို့ကောင်းလဲဆိုတာကို ။

" ဟော့ ငါ့သား မင်းကောင်မလေးကိုပြောလိုက်ပါဦးကွာ အဖေတို့အိမ်ကိုပဲ စားစရာတွေ၊ အသုံးအဆောင်တွေ မပို့ပါနဲ့။ သူလည်း သုံးပါဦးလို့ "

အဖေသည် သူ့ချွေးမကို မတွေ့ခင်ကတည်းက အမှတ်အပြည့်ပေးနေသည့် လေသံနှင့် စကားစသည်..။

" အဖေ သားမတော်ဘူးလား ဒီလိုကောင်မလေးရတာ "

" ဟိတ် ငါ့သား အချစ်ရေးမှာ ဘယ်သူတော်တယ် ၊ မတော်ဘူးနဲ့ မဆိုင်ဘူးကွ ၊ နှစ်ဦးနှစ်ဖက်နားလည်လို့ အချစ်ဆိုတာဖြစ်လာတာကွ ၊ ငါလည်း မင်းအမေနဲ့ တုန်းကဆို ... "

" ကျွန်တော်လည်း မအေယ်နီကို စစတွေ့တုန်းက ... "

" တစ်နေ့တစ်နေ့ သူတို့ချစ်တဲ့သူတွေအကြောင်း စားမြုံ့ပြန်လို့ကိုမပြီးတော့ဘူး "

ညီမအငယ်ဆုံးလေးမှ ကျွန်တော်နဲ့ အဖေ့ကို မကြားတကြား ပြောကာ အိမ်အောက်ဆင်းပြေးသွားသည်။

---

" ကိုကြီး ဒီအကျီ ဘယ်သူပေးတာလဲ "

တစ်အိမ်လုံးမှာ မအယ်နီနှင့်သာ တွေ့ဖူးသည့် ညီမငယ်သည် ကျွန်တော် အပြင်သွားဖို့ ကြံနေစဉ် အနားကပ်လာကာ မေးသည်..။

" ငါ့ကောင်မလေး ပေးတာ "

" ဟယ် ဟယ် ကိုကြီး ဒီအကျီက brand နော် ကိုကြီး သိလား "

" မသိဘူးလေ ငါမှ brand တွေအကြောင်း စိတ်မဝင်စားတာဟ "

" ငါ့ယောင်းမကတော့လေ ရှယ်အမ်းတာ ၊ အကောင်းစားတွေကြီးပဲဆင်တာ ငါ့အကိုကို "

" ဒီကောင်မလေး ဘယ်နှယ့် ငါ့ယောင်းမလဲ ဟမ် "

" ညီမ ယောင်းမ မဟုတ်လို့ ဘယ်သူ့ယောင်းမဖြစ်ရမှာလဲ "

မအယ်နီ နှင့် ကျွန်တော် ၏ ချစ်ခြင်းသည် ကျွန်တော့်အိမ်ကိုပါ ကူးစက်စေသည် ....။ အချစ်ကြောင့်ပဲ လောကကြီးက လှနေတာ မဟုတ်လား။

---

## ( အခန်း - ၁၁ )

" ကိုဇော် ကျွန်တော့်အသိကောင်မလေးတစ်ယောက်နဲ့ တွေ့ကြည့်မလား ။ သူက ကိုဇော့်အပေါ် ကြိတ်ခိုက်နေတာ "

" စိတ်မဝင်စားပါဘူးကွာ "

" လူပျိုကြီးဘဝနဲ့ပဲ အရိုးထုတ်တော့မလို့လား နှမျောစရာကြီးဗျာ "

" မင်းကိစ္စမဟုတ်ဘူးကွ "

" ကိုဇော်ကလည်း မရဘူး တွေ့လိုက်ဗျာ ဒီလို တစ်ကိုယ်တည်းမနေနဲ့ "

" ဟ မင်းကဇွတ်ပဲ ငါ့မှာ ချစ်သူရှိတယ်ကွ "

" သွားမတွေ့ချင်လို့ ပတ်ပြောနေတာမလား ၊ ဒီအကွက်တွေက ရိုးနေပါပြီ ကိုဇော်ရာ "

" ဟရှိတယ်လို့ **Administration** အဖွဲ့က မအယ်နီ

ကွ "

တစ်နှစ်ကျော်ကြာ ထိန်းလာသော စကားတစ်ခွန်းသည် စက္ကန့်ပိုင်းအတွင်း ပေါက်ကြားလေပြီ ...။

---

" မင်္ဂလာပါ မအယ်နီ "

" မအယ်နီ မေ့ာနီး "

မနှုတ်ဆက်စဖူး ညွှကြိုကောင်တာက ကောင်မလေးတွေက ပြုံးစိစိနှင့် နှုတ်ဆက်သည် ...။ အမှန်တကယ်တော့ **company** ထဲ ဝဝင်လာကတည်းက လူတိုင်းက ပြုံးစိစိနှင့် ပြုံးပြနေခြင်း ဖြစ်သည်။

" ငါများ အင်္ကျီပြောင်းပြန် ဝတ်လာမိတာလား " ဆိုပြီး ကိုယ့် **uniform** ကိုယ်ပြန်ကြည့်ရသေးသည်။

" မအယ်နီများ မထင်ရဘူးနော် "

အယ်နီကို လာလာပိုးနေသော computer ရုံးခန်းက ခန့်ထူးရှိန် သည် ဒီနေ့ကျမှ ဘာတွေအစားမှားလာပြီး ရိသဲသဲ လာပြောနေ တာပါလိမ့်။

" ဘာကို မထင်ရတာလဲ "

" ဟဲဟဲ ဒီလိုပဲပေါ့ဗျာ ပန်းလေးလှတယ်လို့ သွားထိကာမှ ဆူးတွေနဲ့ဆိုတာမျိုး "

" နင် ဘာဖြစ်နေတာလဲ၊ လုပ်စရာအလုပ်မရှိဘူးလား၊ လစာအဖြတ်ခံချင်နေတာလား "

ဟုဆိုမှ အလိုလို ပြန်ထွက်သွားသည်။ အကုန်လုံး ဒီနေ့ ဘာဖြစ်နေကြတာပါလိမ့်..။

---

အလုပ်များလွန်းသဖြင့် နေ့လည်စားစာချိန်ကို ဒေစီလာခေါ်မှ အယ်နီစားဖြစ်သည်..။ ထမင်းစားခန်းထဲက သူတစ်ချို့ကလည်း ကွက်ကြည့်ကွက်ကြည့်နှင့် ...။

" ဟဲ့ ဒေစီ ငါ့တအားများ လှနေလို့လား "

" မျက်နှာလေးပြုစမ်း ငါကြည့်ပါရစေအုံး ။ ဟယ် နင် နှုတ်ခမ်းနီ အရောင်အသစ်ဆိုးထားတာပဲ "

" ရုံးထဲကလူတွေ ဘာလို့ ငါ့ကိုတစ်နေကုန် လိုက်ကြည့် နေတာလဲ နင်သိလား "

" ငါလည်း ဘယ်သိမလဲဟ၊ စားမှာဖြင့်စားစမ်းပါ "

ထမင်းစားခန်းမှအထွက်

" မအယ်နီ ချစ်သူက ကိုဇော်ဆို "

လူသိသွား၍ ဒေါ်သထွက်ခြင်းမဟုတ်။ ကတိမတည်ခြင်းကြောင့်သာ ....။

" မ "

" ဘာလို့ပြောလိုက်တာလဲ "

မ ' ၏ မျက်နှာသည်တင်းမာနေသည်..။ ထိုနေ့မှစ သူသည် အလုပ်ခရီးဝေးထွက်သွားခဲ့သည်..။ အယ်နီလည်း မဆက်သွယ်ပေ...။

---

## ( အခန်း – ၁၂ )

အယ်နီတို့၏ ရုံးတွင်းရည်းစားထားခြင်းသည် တစ်ရုံးလုံး တောမီးလို မပြန့်ပေမယ့် တော်တော်များများသိကုန်ကြပြီ ဖြစ်သည်..။ ထိုနေ့က အယ်နီ ဒေါသထွက်သည်..။ သူ့ကို ဒေါသပါသော စကားတွေပြောမိသည်..။ နောက်နေ့ကစ၍ သူသည် ရုံးမလာတော့ပါ ..။ ရုံးခွဲသို့ ထွက်သွားသည် ဟုသိရသည်ကလွဲ စာလည်းမလာ ။ သတင်းလည်း မကြားခဲ့ပါ။ အယ့်နီစီ လာနေကြဖြစ်သော ကောင်တာက ဖုန်းသံလည်း မမြည်တော့ပါ...။ ညနေခင်းတိုင်း အိမ်ပြန်ချိန်က မလင်းလက်တော့ပါ..။ စနေနေ့တွေက အထီးကျန်ဖို့ကောင်းမှန်း ပိုသိသာလာသည်...။ သေချာတာကတော့ ဘုရားမြောက်ဘက်မုခ်မှာ ချစ်သူနှစ်ယောက် ရှိလို့မနေတော့ပါ.....။ အချိန်ကာလအားဖြင့် ပြောရမည်ဆိုလျှင် တစ်ပတ်နီးပါးကြာခဲ့ပေသည်..။ သူပြန်မလာခဲ့ပါ ...။

အယ်နီရဲ့စိတ်ကလည်း " အရမ်းချစ်နေပါစေ ၊ လိုက်မခေါ်ဘူး ၊ နှလုံးသား နာလို့ကျတဲ့ မျက်ရည် ခေါင်းအုံးပဲ သိပါစေ " ဆိုပြီး မိန်းမမာန ကြီးစိုးနေတာ အခက်သား....။

တနင်္လာနေ့

သူပြန်လာသည်...။

အယ်နီတို့ Administration အဖွဲ့စီ သူလာသည်..။

" ဘယ်ရောက်နေတာလဲ "

ရိုးရိုးကြည့်ရင်တော့ အယ်နီက ဒီတိုင်း စကားလေးပြောလိုက်တာပါ..။ ဒီစကားထဲမှာ အလွမ်းဘယ်လောက်ပါမလဲဆိုတာတော့ ခွဲခြမ်းစိတ်ဖြာကြည့်မှသိနိုင်မည်။ သူပြုံးသည် ....။ မအယ်နီလည်း ပြုံးသည်.။

---

Relationship နှစ်နှစ်ပြည့်ခါနီးတွင် ကျွန်တော်တို့ တွဲနေခြင်း အမှတ်မထင် ပေါက်ကြားသွားခဲ့လေသည်..။ ထိုနေ့ကစ၍ ကျွန်တော်သည် ရုံးခွဲကို တာဝန်ပြောင်းပေးပါဆိုပြီး ညတွင်းချင်း အလုပ်ခရီးသွားသည်..။ အချစ်မြွားဒဏ် ထိထားတဲ့သူက ဘယ်စစ်ပွဲကို ထပ်အောင်နိုင်ချင်ဦးမှာလဲ..။

ကျွန်တော်ဟာ ယောကျ်ားလေးပီပီ ရည်းစားများသည်..။ ဘယ်ကတည်းက များသလဲဆိုလျှင် ၈တန်းကတည်းကဖြစ်သည် ...။ လူငယ်သဘာဝ စိတ်ကစားတာ မဆန်းကြယ်ပါ..။ မိန်းကလေး တော်တော်များများ အကြောင်းလည်းသိသည်..။

တချို့ မိန်းကလေးတွေက ကစားဖို့တွဲသည်..။ တချို့မိန်းကလေး တွေက ရည်းစားရှိချင်သဖြင့် ကောက်တွဲသည်..။ တချို့မိန်းကလေး တွေက ဂုဏ်၊ဒြပ်ကို တန်ဖိုးထားသည် ...။ အို အစုံပေါ့ဗျာ..။

ဒါပေမဲ့ ကိုယ့်ကို ပိုးပန်းနေတဲ့ ယောကျ်ားလေးစီက " ချောကလက် မကြိုက်ဘူး ယူမလာနဲ့ " ဆိုသည့် ဟန်ဆောင်မှုကင်းသည့် မိန်းကလေးကိုတော့ တစ်ခါမှမတွေ့ခဲ့ဖူးသည်မှာ အမှန်ဖြစ် သည်...။

မအယ်နီနှင့် မတွေ့ခင်မှာ ကျွန်တော်လက်ထပ်ဖို့အထိ ရည်ရွယ်ခဲ့ သည့် မိန်းကလေး ရှိခဲ့ဖူးသည်..။သူမသည် မအယ်နီလို ချစ်စရာ သေးသေး၊ ပုပုလေးမဟုတ်ပါ..။ သူမအလှသည် ဆွဲဆောင်မှု ရှိသည်..။ " International standards နဲ့ညီတယ် " ဆိုတဲ့ ခေတ်စကားနှင့် ကိုက်ညီတဲ့ မိန်းကလေးပါ..။ ကျွန်တော်

နှစ်နှစ်ကာကာ ချစ်ခဲ့သည်..။ သူမဘက်ကလည်း ချစ်ခဲ့သည်လို့ ထင်ခဲ့သည်..။ သို့ပေမဲ့ ကျွန်တော် အထားခံခဲ့ရသည်..။ ကျွန်တော့်ထက် သာသည့်လူနှင့် လက်တွဲသွားသည်..။ အသည်း မကွဲဘူးဖြေရင် ရယ်စရာဖြစ်မှာပေါ့ဗျာ..။

နေ့ရက်တွေက ပြက္ခဒိန်မှာ တနင်္လာနေ့ ၊ အင်္ဂါနေ့ ဟူ၍ အမည်တွင်သည်..။

ကျွန်တော့် ပြက္ခဒိန်မှာတော့ အသည်းကွဲသည်၊ အသည်းကွဲသည် အမည်တွင်သည်..။

" ငါမိန်းမ မယူတော့ဘူး " ဆိုသည်အထိ ဖြစ်ခဲ့သည်..။ မအယ်နီနှင့် မတွေ့ခင်အထိပေါ့..။ အခုကိစ္စလည်း မအယ်နီ၏ ဒေါ်သကို ရှောင်ခြင်းထက် မအယ်နီငြင်းဆိုမှုကို ကြားရင် ဆိုသည့် ဒဏ်ရာကြောင့် ကျွန်တော် မအယ်နီကို ရှောင်သည်..။ ထပ်ပြီး အသည်းမကွဲချင်တော့ပါ..။ အသည်းကွဲတဲ့ ဒဏ်ရာကို အသူရာ ရည်နဲ့ ကုစားတဲ့ နေ့တွေစီ ပြန်မရောက်ချင်ပါ..။ တစ်ပတ် လောက်အထိ စိတ်ကိုပြင်ဆင်ခဲ့သည်..။ " ငြင်းဆိုခဲ့ရင်လည်း ငါ့ကံကြမ္မာပေါ့ကွာ " ဆိုပြီး ရုံးချုပ်ကို ပြန်လာခဲ့တော့သည်..။

အရှုံးကို ရင်မှာပိုက်လာတဲ့သူပါ..။

ထပ်ဆုံးရှုံးဖို့က နှလုံးသားတစ်ခုပဲ ကျန်တော့သည်..။

---

တနင်္လာနေ့

Administration အဖွဲ့စီသို့ ခြေလှမ်းခဲ့သည်..။

နှလုံးသားအတွက် ကြိုးစင်ပါ စိတ်ထဲကြိုဆောက် ထားလိုက်တော့သည်..။

မအယ်နီကိုတွေ့သည်..။ ပြုံးပြလိုက်သည်..။ အပြုံးတစ်ပွင့်ကိုတော့ မမုန်းလိုက်ပါနဲ့ မအယ်နီ..။

" ဘယ်ရောက်နေတာလဲ "

ကြိုးစင်တက်တော့မည့် နှလုံးသား ပြန်ဆင်းလာသည်..။ သူ့အလုပ်ဖြစ်သည့် ရင်ခုန်သံကို နှိုးဆွလေတော့သည်..။ စနေနေ့မနက် ဘုရားမြောက်ဘက်မုခ်မှာ ဆုံနေကျချစ်သူနှစ်ဦးဟာ မပျောက်ကွယ်သွားပါ..။

## ( အခန်း - ၁၃ )

အယ်နီတွင် မောင်နှမ ငါးယောက်ရှိသည်။ အစ်ကိုအကြီးဆုံးသည် Korea သို့ အလုပ်သွားလုပ်သည်မှာ တစ်နှစ်ခန့်ရှိပြီဖြစ်သည်..။ အယ်နီသည် ဒုတိယအကြီးဆုံးဖြစ်သောကြောင့် အငယ်သုံးယောက်ရဲ့ အမကြီးအမိရာဖြစ်သည်။ အယ်နီတိုက်ခန်းတွင် အရင်က " ကလီယို " ညီမအငယ်လေးနှင့်တူတူနေသည်..။ အယ်နီနှင့် လေးနှစ်ကွာသည်။ ညီအစ်မ နှစ်ယောက်ပဲရှိသည့်အတွက် တွယ်တာကြသည်။ ကလီယိုက မောင်နှမငါးယောက်ထဲမှာ အထူးချွန်ဆုံးဖြစ်သည်..။ RIT တတ်နေရင်း ဖိဆစ်ဂုဏ်ထူးတန်းပါ တတ်သည့်အပြင် ဂိုက်လုပ်ရင်း GED exam fees အတွက် သူ့ဘာသာစုသည်..။ အယ်နီကိုလည်း တော်တော်ချစ်သည်..။ ဒါပေမဲ့ ဒီတလောမှ အမျိုးတွေအိမ်သွားပြီး ဂိုက်လုပ်နေသဖြင့် တိုက်ခန်းမှာ အယ်နီတစ်ယောက်ပဲရှိသည်..။

Sunday morning

တိုက်ခန်းမှာ အေးဆေးနားနေတုန်း

" မကြီးရေ "

သေချာသည်။ ဒီလိုခေါ်တာ အယ်နီမောင်နှစ်ယောက်ပဲရှိသည်..။ သုံးယောက်မြောက် မောင် " သန့်သူ " အယ်နီတိုက်ခန်းတွင် လာနေခြင်းဖြစ်သည်..။ သန့်သူသည် အလွန်ချောသည်။ အယ်နီထက် မျက်လုံးပိုလှသည်..။ မျက်လုံးမျက်ဆံအရောင်က အဝါရောင်ဖြစ်သည့်အပြင် body structures ကလည်း အပိုအလိုမရှိသည့် ပျိုတိုင်းကြိုက် ပုံစံဖြစ်သည်..။ ရန်ကုန်မှာ အလုပ်ရှိသဖြင့် အယ်နီစီ လာနေတာဖြစ်မည်.. ။

" ကလီယိုရော "

" ဟိုတစ်လောကပဲ အမျိုးတွေစီသွားတယ် "

မောင်ဖြစ်သူ ရောက်လာတာကို မငြိုငြင်ပါဘူး။ ဇော် " ဒီနေ့လာမှ ပက်ပင်းတွေတိုးနေရင် ဒုက္ခ..။ မောင်တိုင်းက အစ်မတွေကို သဝန်တိုကြသည် မဟုတ်လား..။

" သန့်သူ ဗိုက်ဆာပြီမလား ခဏနော် ငါထမင်းပြင်ပေးမယ် "

" ရတယ် မကြီး အေးဆေးလုပ် "

" နင်စားနှင့်နော် ငါဈေးခဏသွားလိုက်ဦးမယ် "

ဘာမှဝယ်စရာမရှိပါ..။ ဇော် " လာမှာစိုးသရွေ့ လမ်းထိပ်သွားစောင့်ခြင်းဖြစ်သည်..။ သန့်သူနဲ့ ဇော် ကိုပေးတွေ့မည့်အခုတော့မဟုတ်..။ ဇော်သည် လမ်းထိပ်မှာ စောင့်နေသောအယ်နီကိုတွေ့သဖြင့် မှိုရသည့်မျက်နှာ နှင့် ပြေးဖက်သည်..။

" မ ' က ဇော် ' ကို အဲ့လောက်တောင် လွမ်းနေတာလား၊ ဒါမှန်းသိ စောစောလာပါတယ် "

" ပြောစရာရှိလို့ စောင့်နေတာ "

" အယ်နီ့မောင် သန့်သူရောက်နေတယ် "

" ဟာ ယောက်ဖလား ကောင်းတာပေါ့ ။ ဒါမှန်းသိ လက်ဆောင်တွေဘာတွေဝယ်လာခဲ့ပါတယ် "

" အဲ့တာ တိုက်ခန်းကို လတ်တလောမလာနဲ့ဦး ပြောမလို့ "

" ရတာပေါ့ .... ဟင်...ဗျာ "

" သန့်သူက နည်းနည်း စိတ်ကြီးတဲ့ထဲပါတယ် ။ အဲ့တာကြောင့် ချက်ချင်းပေးမတွေ့တာပါ ။ နော် "

" ကျွန်တော့်ကို အတည်တွဲတာပါနော် "

" ကျွန်မက မကစားတတ်ပါဘူးနော် ၊ ကိုဇော်ဇော် "

" ဟုတ်ပါပြီဗျာ ၊ လတ်တလော တိုက်ခန်းလာတာ သတိထားပါ့မယ် "

" အဲ့အစား တစ်ခုတော့ပြန်ပေးဗျာ "

" ဘာပြန်ပေးရမလဲ "

" အာဘွားလေ ။ ဟော့ဒီ ပါးလေးကို "

" ဟယ် ၊ လူတွေရှိတယ်လေ "

" မသိဘူးဗျာ ၊ မပေးရင် ဒီမှာပဲရပ်နေမှာ "

မအယ်နီ တိုက်ခန်းကို ပြန်လာတော့

" မကြီး နေမကောင်းဘူးလား ၊ မျက်နှာတွေ ပူနေတယ် "

" နေလောင်လာလို့ပါ "

---

အယ်နီသည် စိုင်းထီးဆိုင် ပရိတ်သက်ဖြစ်သည်..။ တစ်ယောက်ဆို တစ်ယောက် စွဲစွဲမြဲမြဲချစ်သလို သီချင်းလည်း စိုင်းထီးဆိုင် သီချင်းပဲ အမြဲနားထောင်သည်..။ ဇော် ' သည် ထူးအိမ်သင် ပရိတ်သက် ဖြစ်သည်..။ အယ်နီကို ထူးအိမ်သင် တိပ်ခွေလေးတွေ အမြဲ ပေးသည်..။ " စကားလုံးမရှိတဲ့ ကောင်းကင် " ကတော့ အယ်နီတို့ရဲ့ သီချင်းလေးပေါ့..။

" စကားလုံးမရှိတဲ့ ကောင်းကင် " ထဲက သီချင်းစာသားနှင့် ပြောရမည်ဆိုလျှင် " ဒါဟာ အချစ်ရဲ့ နှစ်ယောက်ထဲသိတဲ့ အပြာရောင် ဘာသာစကား " ပေါ့။

နေ့တိုင်း နားထောင်နေကျဖြစ်လို့ တိပ်ခွေကိုရှာရာတွင် မတွေ့တော့...။ အထားမှားရအောင်လည်း အယ်နီက စည်းစနစ်ရှိတဲ့သူ...။

" မကြီး ဘာရှာနေတာလဲ "

" တိပ်ခွေ ရှာနေတာ "

" စကားလုံးမရှိတဲ့ ကောင်းကင်လား "

" အေး ဟုတ်တယ်၊ နင်တွေ့မိသေးလား "

" အာ အဲ့တာ ငါ့ရည်းစားကို ပေးလိုက်တာ "

" ဟမ် "

" ရန်ကုန်ရောက်ရောက်ချင်း သွားတွေ့တော့ လက်ဆောင်လည်း မတွေ့လို့ မကြီးတိပ်ခွေတွေ နားထောင်ရင်း အဲ့သီချင်းကြိုက်လို့ အဲ့တာပဲ ပေးလိုက်တာ ။ ငါနောက်မှ မကြီးကို ပြန်ဝယ်ပေးမယ်လေ "

" အေး အေး "

" ဒါနဲ့ မကြီး ရွေးဝယ်ထားတဲ့ တိပ်ခွေတွေက မိုက်တယ် သိလား။ ငါ့ရည်းစားက " ကဗျာဆန်တယ် " လို့တောင် ပြောသွားသေးတယ်။ ငါ့အစ်မ သီချင်းအာရုံ အရမ်းကောင်း ။ "

" ကောင်းမှာပေါ့ နင့်ယောက်ဖဝယ်ပေးထားတာလေ "လို့ စိတ်ထဲကသာ တွေးလိုက်တော့သည်..။ သူများချစ်သူက လက်ဆောင်ပေးထားတဲ့ တိပ်ခွေကို သူ့ရည်းစားသွားပေးပြီး ကောင်းစားနေတာ ..။ ထိုနေ့ကစ၍ မအယ်နီသည် ထူးအိမ်သင် တိပ်ခွေတွေကို သူမ၏ အဝတ်သေတ္တာထဲ ထည့်သိမ်းထားလိုက်လေတော့သည်။

---

( အခန်း - ၁၄ )

အယ်နီမောင် " သန့်သူ " လည်း တစ်ပတ်လောက်နေပြီး ပြန်သွားတော့သည်..။ ဇော်' ကတော့ တိုက်ခန်းမှာ အယ်နီ တစ်ယောက်တည်းဖြစ်နေသောကြောင့် ညအိပ်လာလာ စောင့် ပေးသည်..။ အချစ်သည် ဖြူစင်သည်..။

---

အယ်နီတွင် ဦးလေးများစွာရှိပါသည်..။ သို့သော် ဦးလေး ဒန်နီယယ်နှင့် အရင်းနှီးဆုံးဖြစ်သည်..။ အရင်ကဆို တတွဲတွဲ ။ အယ်နီနှင့် သူငယ်ချင်းလိုပေါင်းသည်..။ အယ်နီကလည်း ခင်တွယ် သည်..။ အလုပ်တွေကိုယ်စီ ဖြစ်တော့မှသာ စိမ်းကုန်ကြသည်..။

သောကြာနေ့ညတွင် ထုံးစံအတိုင်း ဇော်' က လာစောင့် အိပ်ပေးသည်..။ အယ်နီ နှင့် ဇော်' သည် ဂရန်တာကိုထွက်ပြီး အနာဂတ်၊ ရှေ့ရေးအကြောင်း ပြောနေသည်ကို လရောင်ကပဲ အားပေးနေသယောင်ယောင် ညလေးပေါ့..။

ထိုအချိန် တိုက်ခန်းရှေ့ ဂျစ်ကား တစ်စီးထိုးရပ်လိုက်သည်..။ ဟုတ်သည်..။ အယ်နီ ဦးလေး ဒန်နီယယ် အလည်လာခြင်း ဖြစ်သည်..။ ညဘက် တိုက်ခန်းထဲတွင် မိန်းမပျိုတစ်ဦးနှင့် ယောကျ်ားသား တစ်ယောက် ..။ သို့သော် အယ်နီတို့သည် ဖြူစင်သည်..။ အယ်နီတို့၏ အချစ်သည် ဖြူစင်သည်..။

ဇော် ' ပုန်းစရာလည်း မလိုပါ..။ ဟိုတစ်ခေါက်ကလို ပြတင်းပေါက်ကနေ ခုန်ချဖို့ တွေးစရာမလိုပါ ။

" အယ်နီရေ ငါလာတယ်ဟေ "

အယ်နီ တံခါး သွားဖွင့်လိုက်သည်..။

---

" အယ်နီ ဒီက ယောက်ျားစီး ကတ္တီပါဖိနပ်က ဘယ်သူ့ဥစ္စာလဲ "

" အယ်နီ မိတ်ဆက်ပေးစရာ လူတစ်ယောက်ရှိတယ် ဦးဒန်နီ "

ဒန်နီယယ်သည် ဇော် ' ကိုတွေ့သည်နှင့် ခက်ထန်သည့် ပုံပြောင်းသွားသည်..။

" ဦးဒန်နီ ဒါက အယ်နီရဲ့... "

စကားပင် ဆုံးအောင်မပြောလိုက်ရချေ။

" မင်းတို့ ဘာလုပ်နေကြတာလဲ ဒါ "

" ဘာလုပ်နေတာမြင်လို့လဲ ဦးဒန်နီ "

" မင်း မင်း အကျင့်ပျက်နေတာ "

ဒေါသထောင်း ' ခနဲထွက်သွားသည်..။ ဒါကိုယ့်တူမကို ပြောစရာလား။ သို့သော် ဇော် ' ရှိသည်။ အတတ်နိုင်ဆုံး ဒန်နီယယ်ကို ရှင်းပြရမည်..။

" ဦးဒန်နီ အယ်နီတို့က ရိုးရိုးသားသားပါ ။ အယ်နီတို့ တိုက်ခန်းတွေ သူခိုးကပ်တာများလို့ .. "

" ညကြီးမင်းကြီး ယောကျ်ားနဲ့ မိန်းမ အတူရှိနေတာ ရိုးရိုးသားသားလား။ ဟမ် "

ဇော် ' သည် လက်သီးကို ကျစ်ကျစ်ပါအောင်ဆုပ်လိုက်သည်..။

" ဇော် ' ပြန်လိုက်ပါတော့ ဒီညတော့ "

---

ဇော် ' ပြန်သွားပြီးသည်နှင့် အယ်နီသည်

" ဒီမှာ ဦးဒန်နီ ကိုယ့်စိတ်နဲ့ မနှိုင်းပါနဲ့ ။ အယ်နီတို့က ရိုးရိုးသားသားတွေ ။ ဒါကြောင့်မလို့ မိတ်ဆက်ပေးဖို့ ကြိုးစားနေတာလေ "

" မိတ်ဆက်ပေးစရာမလိုဘူး ဒီလိုဟာတွေကို "

" ဘာပြောလိုက်တယ် ဦးဒန်နီ "

" အေး မင်းကြားတဲ့အတိုင်းပဲလေ "

" သေချာတယ်နော် "

" အေး သေချာတယ် "

" မှတ်ထား လုံးဝ မိတ်မဆက်ပေးဘူး "

အယ်နီအသံသည် ဆက်ဆက်တုန်နေသည်..။ ဒေါသအငွေ့တွေလည်း ပါသည် ..။ တိုက်ခန်းလှေကားကနေ ခပ်ကြမ်းကြမ်းဆင်းချသွားတဲ့ ခြေလှမ်းသံ..။ တိုက်ခန်းအောက်မှာရပ်ထားတဲ့ ဂျစ်ကား ခပ်ပြင်းပြင်းမောင်းထွက်သံ..။ ချစ်ခြင်းတွေဟာ ဖြူစင်ပါတယ်..။ အထင်အမြင်တွေနဲ့ အရောင်ခြယ်ခြင်းခံရတော့ ဘယ်သံယောဇဉ်ကြိုးက ခိုင်မြဲပါ့မလဲ..။

---

( အခန်း - ၁၅ )

အယ်နီ့ဦးလေးသည် အယ်နီနှင့် ဇော်ဇော်တို့အကြောင်း သိသွားပြီဖြစ်သည်။ သူများပြောမှ သိမယ့် ဆက်ဆံရေးထက် ကိုယ်က ချပြမှရတော့မည် မဟုတ်ပါလား..။

" ဇော် "

" ပြောလေ မ "

" အယ်နီတို့ ပွင့်ပွင့်လင်းလင်း တွဲကြရအောင် ။ အယ်နီ ဆွေမျိုးသားချင်းတွေကို ပြောပြလိုက်တော့မယ် "

အယ်နီ အစ်ကိုအကြီးဆုံးကို အရင်ပြောပြရမည်။ အစ်ကိုကြီး အဖရာ ပဲလေ။ အယ်နီအကိုကြီးသည် လွန်ခဲ့သည့်တစ်နှစ်ကပင် အလုပ်လုပ်ဖို့ **Korea** ကိုထွက်သွားခဲ့ပြီ။ သို့ပေမယ့် အဆက်အသွယ်မပြတ်ပါ ။ အယ်နီ့ ရုံးဖုန်းကို ထမင်းစားချိန်တိုင်း အစ်ကိုကြီးက လှမ်းလှမ်းဆက်သည်။

" အဆင်ပြေလား ငါ့ညီမ "

" ဘာလိုအပ်သေးလဲ "

" အစ်ကိုကြီး ဘာပို့ပေးရဦးမလဲ "

စသဖြင့် အယ်နီ့အပေါ် ဂရုစိုက်သည်။

အခုလည်း ထမင်းစားချိန်ရောက်ပြီမို့ အယ်နီ့ ရုံးဖုန်းသည် မြည်လာခဲ့ပြီ ။ တုန်ယင်နေသော ဖုန်းကို တည်ငြိမ်သည့်လက်ဖြင့် ကိုင်လိုက်သည်။

" ဟယ်လို "

" အယ်နီ နေကောင်းလား "

" ကောင်းတယ် ကိုကြီး "

" အငယ်သုံးယောက်ကော "

" ကောင်းတယ် ကိုကြီး ၊ သန့်သူတောင် ဟိုတစ်လောက လာသွားသေးတယ် "

" အေးအေး ဘာလိုအပ်တာလဲရှိသေးလဲ "

" မရှိပါဘူး ကိုကြီးရဲ့ ၊ ဒါနဲ့လေ အယ်နီပြောစရာ ရှိတယ် "

" အေးပြော "

" အယ်နီ ချစ်သူရနေပြီ "

" အေးပါ ... ဟမ် "

ညီမဖြစ်သူမှ တခါမှမပြောဖူးသော စကားဆိုလာသောကြောင့် အစ်ကိုကြီးဘက်မှ ခဏတိတ်ဆိတ်သွားသည်။

" အယ်နီ အတည်တွဲတာ၊ ယူဖို့ အစီအစဉ်ရှိတယ် "

" ဟ နေပါဦး ၊ တွဲတာ ဘယ်နှစ်နှစ်ရှိပြီလဲ "

" နှစ်နှစ်ကျော်ပြီ "

" သူ ဘာအလုပ်လုပ်လဲ "

" အယ်နီတို့ရုံးမှာပဲ အလုပ်လုပ်တယ် "

" တစ်လ ဝင်ငွေ ဘယ်လောက်ရှိလဲ "

" အယ်နီ နဲ့ တူတူပဲ "

" သူ့အိမ်ကိုကော လိုက်သွားပြီးပြီလား "

" မလိုက်ရသေးဘူး "

" သူ့မိဘတွေကိုကော တွေ့ပြီးပြီလား "

" မတွေ့ရသေးဘူး "

မေးခွန်းပေါင်း သောင်းခြောက်ထောင် မေးပြီးသည့်နောက်တွင် အစ်ကိုကြီးသည် ဖုန်းချသွားခဲ့သည်။ အယ်နီ ကိုယ့်လမ်းကြောင်း ကိုယ်လျှောက်တော့မှာကို အစ်ကိုကြီး လက်ခံဖို့ အချိန်ခဏလိုမှာပါ။

---

" မ "

ရုံးအဆင်း အယ်နီကို အိမ်ပြန်လိုက်ပို့ရင်း ဇော့် " မှာ ခုန်ဆွ ခုန်ဆွနှင့်

" အံ့မယ် အံ့မယ် မျက်နှာက ပြုံးစ ပြုံးစနဲ့ "

" ဟဲဟဲ ဘာတဲ့လဲ ယောက်ဖကြီးက "

" ဘာကို ဘာရမှာလဲ "

" သဘောတူတယ်တဲ့လား "

" သဘောမတူရင်ရော ဇော် ' ဂ မ ' ကို မချစ်တော့ဘူးလား "

" မရပါဘူး ချစ်မှာပဲ "

ပြောကာဆိုကာနှင့် အယ်နီ ပါးကို အနမ်းချွေသည် ။

" ဟယ် ဟယ် အရမ်းတွေနော် "

" မရဘူးကွာ အသည်းယားနေတာ "

" ဒါနဲ့ မ ' "

" အင်း ပြောလေ "

" ဘယ်နေ့အားမလဲ "

" ဘာလုပ်ဖို့တုန်း "

" အိမ်လာခဲ့ပါလား၊ ကျွန်တော့်မိဘတွေနဲ့ ပေးတွေ့မလို "

ချစ်ခြင်းတွေက လှလား ၊ မလှလား သေချာမသိပါဘူး ။ ဒါပေမဲ့ အယ်နီတို့နှစ်ယောက်ရဲ့ နေ့ရက်တွေကတော့ လှပပါတယ်။

---

အယ်နီသည် ချစ်ရသူ မိဘအိမ်သွားရမည်ဆို၍ အထူးတစ်လည် မပြင်ဆင်သွားပါ..။ ရုံးမသွားခင် ခဏဝင်ရုံမို့ ရုံးအဝတ်အစားနှင့်သာ ဖြစ်သည်..။ သို့သော် အယ်နီသည် လက်ဗလာနှင့် မသွားပါ..။ မနက်ခင်းအစောပိုင်းဖြစ်သည်မို့ အသုပ်တွေ၊ လက်ဖက်ရည်တွေ ဝယ်သွားခဲ့သည်။

" ရုံးမသွားခင် ခဏဝင်လာတာလား သမီး "

" ဟုတ်တယ် ဦး "

ဇော် ' ၏ အဖေနှင့်အမေသည် အယ်နီကို ညွှဝတ်ကျေကြသည်။ ဇော် ' က အယ်နီဘေးနားမှာ ထိုင်သည် ။

" လက်ဖက်ရည်သောက်လေ "

အယ်နီသည် ပြောကာဆိုကာ လက်ဖက်ရည်ခွက်ကို အသာလှမ်းယူပြီး ဇော်' ၏ ပါးစပ်နား တေ့ပေးလိုက်သည်။

အန်တီ နှင့် ဦး ကတော့ ပြုံးစ ပြုံးစ နှင့် ။

---

" အယ်နီ အယ်နီ ဘယ်လိုလဲ ဇော်ဇော် အိမ်က "

ရုံးရောက်သည်နှင့် ဒေစီက အတင်းမေးသည်။

" အန်တီ နဲ့ ဦးလေးက နွေးထွေးကြပါတယ်ဟ "

" ဒါနဲ့ အယ်နီ ငါမနေ့က်ဖြန် ပိတ်ရက် ပေဒင်သွားမေးမို့ လိုက်ခဲ့ပါလား "

" ဟာ နင့်ဘာသာ သွားမေးလေ "

" သူငယ်ချင်းလေးကလည်း နင်ပါလိုက်ခဲ့တော့ ငါအားရှိတာပေါ့လို့ "

" နင်က ဘာတွေသွားမေးမလို့လဲ "

" အချစ်ရေး ၊ အိမ်ထောင်ရေးပဲပေါ့ဟယ် "

" နင် ဗေဒင်တအားယုံတာပဲနော် "

" မရဘူး နင်ပါလိုက်ခဲ့ ၊ နင်နဲ့ ဇော်ဇော် အချစ်ရေး စစ်ကြည့်ပေါ့ကွာ ၊ ဇော်ဇော်ပါ ခေါ်ခဲ့လိုက် "

" သူက အဲ့တာတွေ မယုံဘူးဟ "

---

ပိတ်ရက် ချစ်ရသူနှင့် လျှောက်လည်မည် ဆိုကာမှ ၊ အခုပဲကြည့် ဒေစီက သူဗေဒင်မေးမည်ဆိုပြီး အယ်နီ့ပါ ဆွဲခေါ်လာသည်။

" ဒေစီ နင့်ဗေဒင်ဆရာကလဲ ကြာလိုက်တာဟယ် "

" နင်ကလည်း ခဏလေးပဲစောင့် ၊ သူကမှန်လွန်းတော့ လာမေးတဲ့သူ များတယ်ဟ "

ဒီလိုနှင့် အယ်နီတို့အလှည့် ရောက်လာသည်။

" ဆရာ ဒေစီကလေ ဒေစီ အချစ်ရေးလေး မေးကြည့်ချင်လို့ "

ခဏလောက် စာရွက်ပေါ် ဟိုခြစ်၊ ဒီခြစ် လုပ်ပြီးသည်နှင့်

" အေး ကောင်းတယ် ၊ ဒါပေမဲ့ ကံညံ့နေတာလေးတွေ ရှိတော့ ယတြာချေဖို့ လိုတယ် "

အယ်နီလည်း စိတ်မဝင်စားသည်နှင့် ဘေးဘီဝဲညာလျှောက်ကြည့်ရင်း အတွေးလွဲလိုက်သည်။ မိဒေစီ ဗေဒင်တွေ ယုံကိုယုံလွန်းသည်။

" ပြီးပြီလား ဒေစီ ပြန်မယ်လေ "

" ဟဲ့ နင်မေးဦးလေ "

" မမေးပါဘူး "

" ဟိုဟာ ဆရာ ကျွန်မသူငယ်ချင်း နဲ့ သူ့ချစ်သူရဲ့ ဇာတာလေးပါ စစ်ပေးပါလား ဆရာ "

" ဟဲ့ ငါပိုက်ဆံမပေးဘူးနော် "

" ငါပေးမယ် နင်ကလဲ စစ်ကြည့်လိုက်ပါဆိုတာကို "

ခဏလောက်ကြာသောအခါ ထိုဗေဒင်ဆရာမှ

" မကောင်းဘူး၊ မင်းတို့နှစ်ယောက်က ဆုံလို့ရတဲ့ ကံကြမ္မာ မဟုတ်ဘူး ၊ ရှင်ကွဲ ကွဲရင်ကွဲ ၊ မကွဲရင် သေကွဲ ပဲ "

ဒေစီ ကတော့ ပြာပြာသလဲ လန့်ကာ

" ဆရာရယ် ကူလို့ကယ်လို့ရမယ့် ယတြာလေးများ မရှိဘူးလား " ဟု မေးသည်။

အယ်နီ ကတော့ ဗေဒင်ကို အစကတည်းက မယုံသည့်အပြင် ကိုယ်နှင့် ကိုယ်ချစ်သူကို ကွဲမည် ပြော၍ ဒေါသထွက်ကာ

" လာ ဒေစီ ပြန်မယ် " ဟုဆိုကာ ထထွက်ခဲ့သည်။

---

အပြန်လမ်းတွင် ဒေစီက စကားစသည်။

" အယ်နီ ယတြာပေးလိုက်တယ် လုပ်ဖြစ်အောင် လုပ်နော် "

" မလုပ်ဘူးဟာ "

" ဟဲ့ အဲ့ဆရာက မှန်တယ်ဟ "

" သူ့ဘာသာ မှန်မှန်၊မမှန်မှန် ငါတို့ကံကြမ္မာ ငါတို့ရေးမှာ "

" နင်နဲ့တော့ ခက်တာပဲဟာ "

" ဒေစီ နင်ယုံရင်ယုံ ၊ ငါဘာမှမပြောဘူး ၊ ငါ့တော့လာမယုံခိုင်းနဲ့ "

" မပြောကောင်း၊မဆိုကောင်း နင်နဲ့ ဇော်ဇော် အဲ့လိုဖြစ်မယ်ဆိုရင်ရော "

" မဖြစ်ဘူး "

" သေကွဲကွဲမယ်လို့ပြောလိုက်တာဟာ နင်ကလည်း "

" ဒေစီ ဒီမှာ ငါပြောမယ် ၊ သေကာမှသေရော ချစ်လို့သေရရင် တန်တယ် "

နေသာဝင်လို့ ပတ်ဝန်းကျင်က တဖြည်းဖြည်း တိတ်ဆိတ်လာတယ်။ အယ်နီ့ ရင်ထဲမှာတော့ ပူလောင်နေဆဲ ။ ထိုစဉ်

" ကလင် ကလင် "

" ဟယ်လို "

" မ ၊ စားပြီးပြီလား "

" ပြီးပြီ "

" အိမ်ကညီမတွေက မ ' ကို ချောလို့တဲ့ "

" အင်း "

" အသံ မကောင်းပါလား ။ မ ' နေမကောင်းဘူးလား "

" ဇော် ' ကံကြမ္မာကို ယုံလား "

" ကံကြမ္မာဆိုတာ ကျွန်တော်တို့ ကိုယ်တိုင်ရေးလို့ ရတယ်လေ မ ' ကလည်း "

" အင်း "

" မဒေဝီနဲ့ ပေဒင်သွားမေးလာတာ၊ စိတ်ခုစရာတွေ ပါလာလို့လား "

" အင်း "

" မေ့ပစ်လိုက်ချည် မ ' ။ ကျွန်တော်တို့ ကံကြမ္မာကို ချစ်ခြင်းနဲ့ စထားမှတော့ ချစ်ခြင်းနဲ့ပဲ အဆုံးသတ်ရမှာလေ "

" ဘယ်သူပြောတာလဲ "

" မ ' ရဲ့ ဟောဒီ ပေဒင်ဆရာလေး ပြောတာပေါ့ဗျာ "

---

## ( အခန်း - ၁၅ )

မအယ်နီ ရုံးဆင်းသည်ကိုစောင့်သည်။ ညနေခင်းအရောင်သည် လိမ္မော်ရောင်ဆန်သည်။ မအယ်နီ တိုက်ခန်းအထိ တူတူ လမ်းလျှောက်သည်။

" မအယ်နီ ကျွန်တော့်ကို အတည်ယူမှာလား "

မအယ်နီ ရယ်သည်။

" ကျွန်တော်ဟာ ပြည့်စုံတဲ့သူတစ်ယောက် မဟုတ်ဘူး။ အိမ်ကလည်း ငွေကြေးမချမ်းသာပါဘူး။ ဒါပေမဲ့ ကျွန်တော် ဘဲဥတစ်လုံးစားရရင် မအယ်နီကို တစ်ခြမ်းကျွေးပါမယ် "

မအယ်နီ သည် ကြောင်ကြည့်နေသည်။ ပြောချင်ဇောနဲ့ ဘဲဥတွေ ပါ ပါလာသည်ကို ။ ဒုက္ခပဲ ။ " တွေးတာက တစ်မျိုး ၊ တကယ့်တကယ် ပြောတော့ ဘဲဥတွေပါပါလာပြီ " ဟုတွေးကာ စိတ်ထဲ ဗလောင်ဆူနေသည်။

မအယ်နီ ထပ်ရယ်သည်။ ချစ်သူသက်တမ်း သုံးနှစ်ပြည့်သည့် အချိန်တွင် ကျွန်တော်တို့ ရှေ့တစ်လမ်းဆက်လျှောက်သည်။

" အမေ ၊ အဖေ ကျွန်တော် မအယ်နီကို လက်ထပ်တော့မယ် "

ညတိုင်းကြည့်နေကျ ကိုရီးယားကားထဲကလို အမေက မအံ့ဩသွားပါ ၊ အဖေကလည်း သဘောမတူဘူး လို့ ထမအော်ခဲ့ပါ ။ မြန်မာကား ထဲကလိုလည်း ကျွန်တော်တို့ နှစ်ယောက် ခိုးပြေးဖို့မလိုပါ ။

အမေကတော့ တစ်ခွန်းပြောသည်။

" ဇာတာ သွားစစ်ကြည့်ကြတဲ့ "

---

ကျွန်တော် အလုပ်ထွက်လိုက်သည်။ စာအုပ်ဆိုင်လေး တစ်ဆိုင် စ ' ထူထောင်သည်။ မအယ်နီနှင့် အတူနေမည့် အိမ်လေး တစ်လုံးလည်း လိုက်ပတ်ရှာသည်။ မအယ်နီသည် သူစုထားသော ငွေတွေ ကျွန်တော့်ကို အပ်သည်။

" ဇော့် စိတ်ကြိုက် အိမ်ရှာဝယ်ပါ " တဲ့။

ကျွန်တော်သည် စာအုပ်ဆိုင်လေးမှာပင် နေတော့သည်။ လူပါးသည့် အချိန်များတွင် အိမ်တွေလိုက်ကြည့်သည်။ မအယ်နီကတော့ ရုံးတတ်ဆဲ။ သူမ၏ တိုက်ခန်းမှာနေဆဲ။ ညတိုင်း ဖုန်းလှမ်းလှမ်းဆက်ရသည်။

" ဟယ်လို "

" ဟယ်လို မ "

" မ ' အိမ်လေး တစ်လုံးတွေ့ထားတယ် ။ ကျွန်တော်နဲ့ တူတူ သွားကြည့်ရအောင် "

" ဇော် ကြိုက်တာ ဝယ်လိုက်လေ "

" မ ' ကလည်း ကျွန်တော်ပဲ လိုက်ကြည့်နေရတယ် ။ မ ' တစ်ခါမှ လာမကြည့်ဘူး ။ နှစ်ယောက်တူတူနေမယ်အိမ်ကို တူတူကြည့်သင့်တာပေါ့ "

" ဇော့် စိတ်ကြိုက် လုပ်ပါဆို "

ကျွန်တော် ဖုန်းချလိုက်သည်။ သို့သော် နောက်ရက်တွေလည်း ကျွန်တော် ဖုန်းမခေါ်ဘဲ မနေနိုင်ပါ။ မအယ်နီ အလုပ်များသည်ကို ကျွန်တော်သိသည်လေ။ ရက်နည်းနည်းကြာတော့ အိမ်လေးတစ်လုံး ဝယ်ဖြစ်သွားသည်။ မအယ်နီ ရုံးသွားရုံးဆင်းလုပ်လျှင် မပင်ပန်းအောင် ရုံးနှင့်နီးသည့်နေရာလေးမှာပေါ့ ။

---

မအယ်နီ နှင့် ကျွန်တော် အမြဲသွန်ပေးသည့်စီ ဇာတာ သွားစစ်ကြသည်။

" မင်းတို့က ဘာလာကြည့်တာလဲ "

" ဇာတာ လာစစ်တာပါ "

" ငါက မယူနဲ့ဆိုရင်ရော မယူပဲနေမှာလား "

မအယ်နီ ရော ၊ ကျွန်တော်ရော ပြိုင်တူ ဖြေမိသည်။

" ယူမှာ "

ဇာတာစစ်ပေးမည့် အဖိုးသည် ရယ်သည်။

" ဒါနဲ့များ ဘာလို့ လာစစ်သေးလဲ "

" ကျွန်တော့် အမေ လာစစ်ခိုင်းလို့ "

" ဇာတာတွေကကောင်းတယ် ၊ ဟော့ ဒါနဲ့ မင်း ၊ မင်းမှာ ပီယဓာတ်ရှိတယ် ၊ တွဲခဲ့ဖူးတာ မနည်းဘူး ၊ ဟုတ်တယ်မလား "

ကျွန်တော့်ကို တည့်တည့်ကြည့်ကာ ပြောသည်။ ပြုံးဖြဲဖြဲနှင့် " ဟုတ်ကဲ့ " ဟုပြန်ဖြေလိုက်သည်။

" ရက်ကောင်းရက်မြတ်က ငါမရွေးပေးတော့ဘူး ၊ မင်္ဂလာခန်းမ အားတဲ့ရက်သာ မင်းတို့ဘာသာရွေးကျ ၊ တရားရုံး လက်မှတ်ထိုးမယ့်နေ့တော့ ငါပေးလိုက်မယ် "

ဇာတာတွေ ကိုက်လို့ပဲ နီးခဲ့ကြသလား ၊ ရေစက်တွေရှိလို့ ဆုံခဲ့ကြတာလား မသိပေမယ့် နှလုံးသားချင်းနီးလို့ လက်တွေတွဲခဲ့ကြပြီပဲ ...။

---

မြို့နယ်တရားရုံးကို အသိသက်သေအနေနှင့် ကျွန်တော့် အဖေကို ခေါ်သွားသည်။ တရားသူကြီးသည် ကျွန်တော်တို့ စုံတွဲ လက်မှတ်လာထိုးသည်ကို ကြည့်ပြီး ပြုံးပျော်နေသည်။

" ဒီက သား နဲ့ သမီး ချစ်ချစ်ခင်ခင် ၊ ပျော်ပျော်ရွှင်ရွှင်နဲ့ အိုအောင်မင်းအောင် ပေါင်းနိုင်ပါစေ " ဟု ဆုပေးလိုက်သည်။

---

( အခန်း - ၁၆ )

" အိမ်ရှင်တို့၊ မျိုး၊ အိမ်ရှင်တို့ "

" ဟာ ဇော်ဇော်၊ ဝင်လေ အိမ်ထဲ "

" မဝင်တော့ဘူး ၊ မင်္ဂလာဆောင် ဖိတ်စာ လာပေးတာ "

" ဘယ်သူနဲ့တုန်း "

" မအယ်နီနဲ့လေ "

---

အယ်နီတို့ နှစ်ယောက် သဘောတူထားတာ တစ်ခုရှိသည်။ Wedding တွင် soundbox လုံးဝ မဖွင့်ခြင်းပင်။ Wedding တွေ ရောက်ဖူးပါသည်။ အသိမိတ်ဆွေတွေ့လို့ အာလာပ၊ သလာပ ပြောလျှင် soundbox အသံကို ကျော်အောင် အော်အော်

ပြောရသည်မှာ အဆင်မပြေဟု နှစ်ယောက်စလုံး ယူဆ ထားသော ကြောင့်ဖြစ်သည်။

ဧည့်ခန်းမ ထဲကို သူ့အမျိုး ၊ ကိုယ့်အမျိုး ၊ သူ့မိတ်ဆွေ ၊ ကိုယ်မိတ်ဆွေ အသီးသီးရောက်နေကြသည်။ သို့သော် မင်္ဂလာမောင်နှံမှာ အခုထိ မရောက်လာသေး..။ မည်သည့်အကြောင်းကြောင့်မျှမဟုတ်။ Makeup salon တွင် အချိန်ကြာနေသောကြောင့်ဖြစ်သည်။ အယ်နီကို makeup ပြင်သည့် အခန်းထဲတွင်

" တကယ်ချစ်လို့ ယူကြတာပေါ့နော် "

" အချစ်ခံနေရတာပေါ့နော် "

" အားကျလိုက်တာ "

စသဖြင့် makeup staff တွေက တီးတိုးပြောကြသည်။

အယ်နီ ဝတ်ထားသည့် မင်္ဂလာဆောင်ဝတ်စုံက စီးကွင့်တွေထက်ပင် အယ်နီအပြုံးသည် လင်းလက်နေသည်။ ဧည့်ခန်းမထဲသို့ အယ်နီတို့ ရောက်သွားကတည်းကစပြီး တစ်စက်မှ မထိုင်ရ။ ဇော် " လက်ဆွဲ ရာနောက်လိုက်ကာ ဧည့်ခံရသည်။ ပြုံးရတာလည်း အာတွေ

ညောင်းလာသည်။ သို့သော် အပြုံးမပျက်ချေ။ နှလုံးသားကအစ ပြုံးနေသည်ကို။

လက်ထပ်ပြီးသည့် အခါတွင်လည်း အခေါ်အဝေါ်တွေ ပြောင်းခဲ့သည်။

" မိန်းမ ဟင်းမချက်တတ်ရင် မချက်နဲ့နော် ယောကျ်ားချက်ပေးမယ် "

" ယောကျ်ားရေ လာပါဦး ဗိုက်ထဲက ကလေးလေး ကန်လိုက်သလိုပဲ လာစမ်းကြည့်ပါဦး "

ထို့အတူ တစ်နှစ်ကြာသည့်အခါ စာအုပ်ဆိုင် တွဲဖွင့်ထားသော အိမ်လေးထဲမှာ

" မနက်ခင်း ပွင့်တဲ့ ပန်းကလေး ထပ်ကို ပိုမွှေးတာ ချစ်သမီးလေးရဲ့ပါးနုနုလေးတွေမှာ "

ဆိုတဲ့ သီချင်းသံကို ညဘက်တိုင်း သီဆိုတဲ့အသံတွေ ပျံ့လွင့်စမြဲပါ..။

နောက်သုံးနှစ်လောက်ကြာတော့ " ချစ်သားလေးရဲ့ ပါးနုနုလေး တွေမှာ " လို့ပြုန်ပြင်ဆိုတဲ့ သီချင်းသံလေးက ညမွှေးပန်းတွေ ကြားက ထွက်ပေါ်လာစမြဲ..။

---

" မေမေ မေမေ "

" ပြောလေ သမီးရဲ့ "

" ဖေ့ဖေ့ကို ဘာလို့ယူခဲ့တာလဲ "

" ချစ်လို့ပေါ့ကွယ် "

" ဒါဆို ဘာတူက စချစ်တာလဲ "

မပီကလာပီကလာနှင့် သားငယ်လေးက ဝင်မေးသည်။

" ဖေဖေပေါ့ကွာ "

" ဘာကြောင့် ချစ်သွားတာလဲ ဖေဖေက "

" အဆူခံရလို့ "

" ဒါမဲ့ တားကို ဆူရင်တော့ တားက မချစ်ပါဘူး "

" ဒါဆို သားသားကို ကလိထိုးရင်ရော ချစ်မလား "

" ဟာ မေမေ လုပ်နဲ့၊ တား ယားတယ် "

အိမ်လေးက ရယ်သံတွေနှင့် လွှမ်းခြုံကာ နွေးထွေးနေလျက်ရှိသည်။

~ The end ~

---

( Extra episode )

Wedding day က makeup salon မှာ သတို့သား ကိုဇော်ဇော် တစ်ယောက် ရယ်ရခက်၊ ငိုရခက် ဖြစ်ခဲ့ရသည်။ အဘယ့်ကြောင့်ဆိုသော် ငှားထားသည့် makeup team သည် gay များဖြစ်ကြသည်။

Makeup salon မှာ ဘိုကင်တင်ထားတဲ့အတွက် မင်္ဂလာ မောင်နှံ ရောက်လာတာနှင့် စပြင်ဆင်ပေးသည်။

" သတို့သားကို အခန်းထဲ ခေါ်ပြင်ပေးလိုက် " ဟု မအယ်နီကို ပြင်ပေးနေသည့် makeup artist ကလှမ်းပြောသည်။ makeup ခန်းထဲအရောက် ပြင်စရာရှိတာပြင်နေတုန်း

" သတို့သားက အရမ်းချောတာပဲနော် "

ကိုဇော်ဇော်ကတော့ ရယ်ကျဲကျဲနှင့် ..။ ပြင်ဆင်ပေးသည့် makeup artist က နှစ်ယောက်တည်း။ makeup ပြင်တုန်း ကတော့ ဘာမှသိပ်အထွေအထူးမရှိ ။ စကားပြောရုံလောက် ။ အဝတ်တွေဘာတွေလဲခါနီးကျ သတို့သားကို ကိုယ်တိုင်ကိုယ်ကျ

လဲပေးချင်ကြသည်။ အရေးကြီးသည့်နေရာတွေကို ထိချင်ကိုင်ချင်ကြသည်။ ကိုဇော်ဇော်ကလည်း ခေသူမဟုတ်ချေ။

" တို့က ယူနဲ့ အခွင့်အရေးရှိရင် တစ်ခါလောက် date ချင်တယ် " ဟု စကားစသည်။

" ကျွန်တော်က straight ဗျ ၊ opposite gender တွေကိုပဲစိတ်ဝင်စားတယ် "

" တို့က အပြုအစုအယုအယ ကောင်းပါတယ်နော် "

သတို့သားကို ပုဆိုးအခါတစ်ရာလောက် ပြင်ဝတ်ပေးပြီးမှ ပြင်လို့ဆင်လို့ပြီးကြသည်။ မည်သို့ပင်ဖြစ်စေကာမူ သူတို့သည် ကိုဇော်ဇော့်ကို ကြွေသွားကြသည်။ မင်္ဂလာခန်းမကို သွားသည့်အခါတွင်လည်း makeup team ကလိုက်ရသည်။ မင်္ဂလာခန်းမထဲအရောက် မအယ်နီ ဆံထုံးတွင် တစ်ခုခုလိုနေသည်ဟု makeup artist က သူ့ staff ကို ပြောမည်ကြံသေး ၊ ကိုဇော်ဇော်က ကလစ်ဘူးလေးထုတ်ကာ

" လိုနေတာ ဒီကလစ်မလား ၊ ရော့ "

Makeup team တစ်ခုလုံး ပါးစပ်အဟောင်းသား။ ထိုစဉ် စောနက ကိုဇော်ဇော်နှင့် စကားပြောခဲ့သော makeup artist သည်

" အမလေး အမလေး ချစ်တတ်လိုက်တာနော် ၊ တို့ တစ်ဘဝလုံး အချစ်တွေပဲပေးခဲ့ရတာ ။ အခု ယူ့ကိုကြည့်ပြီး ချစ်တတ်တဲ့သူတွေလည်း ရှိပါလား သိလိုက်ရပြီ "

မင်္ဂလာပွဲအပြီး makeup team ပြန်မယ့်အချိန်တွင် အယ်နီကို ထို makeup artist က လာဖက်ကာ

" ဒါလင် ၊ ဒီလိုကောင်လေးမျိုးရတဲ့အတွက် မင်း အရမ်းကံကောင်းတာပဲ ။ ချစ်ချစ်ခင်ခင်နေကြနော် "

ကိုဇော့်ဇော့်ဘက်လည်း မျက်စပစ်ကာ

" တို့နောက်ဆို ယူ့လိုကောင်လေးမျိုးပဲ ရှာတွဲတော့မယ် "

---

" ENJOY "